| Item | Description | Unit | Qty | Price(Ks) | Total (Ks) |
|---|---|---|---|---|---|
| 4 | 50 x50 mm 90˚ Elbow (Thickness-1mm²) | No | 50 | 7,410 | 370,500 |
| 5 | 100 x 50 mm Tee (Thickness-1mm²) | No | 20 | 14,000 | 280,000 |
| 6 | 50 x 50 mm Tee (Thickness-1mm²) | No | 50 | 12,000 | 600,000 |
| 7 | Long Thread (6 Ft) | No | 2000 | 3,600 | 7,200,000 |
| 8 | 1" Hollow MS Pipe (19'6" Length) | No | 70 | 6,300 | 441,000 |
| 9 | Ø ¾" GI Wall Plug | No | 4000 | 150 | 600,000 |
| 10 | Trunking with Accessories | Lot | 1 | 350,000 | 350,000 |
| IV | **External Pipe** | | | | - |
| 1 | 3" PVC Pipe (CL-8.5) | No | 300 | 21,303 | 6,390,900 |
| 2 | 3" PVC 90 Elbow (CL-8.5) | No | 100 | 910 | 91,000 |
| 3 | 3" PVC 45 Elbow (CL-8.5) | No | 100 | 745 | 74,500 |
| 4 | 3" PVC Saddle (CL-8.5) | No | 300 | 600 | 180,000 |
| 5 | 3" PVC Socket (CL-8.5) | No | 450 | 603 | 271,350 |
| 6 | 11/2" PVC Pipe (CL-8.5) | No | 5000 | 6,436 | 32,180,000 |
| 7 | 11/2" PVC 90 Elbow (CL-8.5) | No | 1200 | 180 | 216,000 |
| 8 | 11/2" PVC 45 Elbow (CL-8.5) | No | 1200 | 175 | 210,000 |
| 9 | 11/2" PVC Saddle (CL-8.5) | No | 7500 | 300 | 2,250,000 |
| 10 | 11/2" PVC Socket (CL-8.5) | No | 7500 | 145 | 1,087,500 |
| 11 | 2" GI Pipe | No | 120 | 23,000 | 2,760,000 |
| 12 | 2" GI Socket | No | 90 | 850 | 76,500 |
| V | **DB with Accessories** | Set | 5 | 1,200,000 | 6,000,000 |
| VI | **DB with Accessories (For Aircon)** | Set | 1 | 3,942,000 | 3,942,000 |
| VII | **Earthing System** | Lot | 5 | 900,000 | 4,500,000 |
| VIII | **Lightning System** | Lot | 1 | 7,200,000 | 7,200,000 |
| IX | **Draw Pit (Metal Cover)** | No | 48 | 70,000 | 3,360,000 |
| X | **Wall Hacking & Re-plastering Work** | Rft | 1500 | - | - |
| XI | **Earth Excavation & Back Filling Work** | Cu-ft | 55360 | - | - |
| XII | **Hire Crane** | Lot | 1 | 10,000,000 | 10,000,000 |
| XII | **Other Accessories** | Lot | 1 | 5,000,000 | 5,000,000 |
| | **Total** | | **196,640** | | **139,964,420** |
| | Exchange Rate US$ to Kyat | | | | 980 |
| | Equivalent US$ | | | | 142,820.84 |

| | US$ |
|---|---|
| Civil - Local purchase | 1,911,890.86 |
| Civil - Import | 5,960,644.38 |
| Civil - Mechanical - local | 325,162.59 |
| Civil - Mechanical - Import | 438,775.51 |
| Civil - Electrical - Local | 142,820.84 |
| Civil - Electrical - Import | 1,408,322.52 |
| Total Material Cost | 10,187,616.69 |
| Design/ Supervision and lobor | 950,942.14 |
| **Total Civil Work - Year 1** | **11,138,558.84** |

နောက်ဆက်တွဲ-ဃ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပို့ဆောင်ရေးဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁)၂၀၁၅(Port)(၃/၁၃၆)

ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ မတ်လ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား အဆင့်မြှင့်တင်ပြုပြင်ခြင်း လုပ်ငန်းနှင့်ပတ်သက်၍ တည်ဆောက်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကိုင်တွယ် စက်ကိရိယာများအား စိစစ်၍ ပြန်လည်တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) ပို့ဆောင်ရေးဝန်ကြီးဌာန၏ ၂၉.၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၅၂- ပဆ/ ခွဲ (၁)၂၀၁၅ (ဗ)(၁/၄၆၂)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇.၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/ မ- ၁၄၆၅/ ၂၀၁၅ (၁၂၆)

၁။ Myanmar Sule Terminal Limited အမည်ဖြင့် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Trading Co.,Ltd တို့ ဖက်စပ်ကုမ္ပဏီ တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား အဆင့်မြှင့်တင်ပြုပြင်ခြင်းလုပ်ငန်း နှင့်ပတ်သက်၍ အသုံးပြုမည့် တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများ၊ ကုန်ကိုင်တွယ် စက်ကိရိယာများ စာရင်းအား ရည်ညွှန်း (၁)ပါစာဖြင့် စိစစ်တင်ပြခဲ့ရာ အဆိုပါ ပစ္စည်းများသည် အဆိုပြုချက် ကနဦးတင်ပြစဉ်က ပြည်ပမှတင်သွင်းမည့် ပစ္စည်းများစာရင်းနှင့် တူညီနေသည်ကို တွေ့ရှိရပါသဖြင့် ပြန်လည် စိစစ်ပေးနိုင်ပါရန် ရည်ညွှန်း (၂)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ ရန်ကုန်ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား အဆင့်မြှင့်တင် ပြုပြင်ခြင်း လုပ်ငန်းသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Trading Co.,Ltd တို့ ပူးပေါင်း၍ ဖက်စပ်ကုမ္ပဏီတည်ထောင်ကာ ဆောင်ရွက်မည့်လုပ်ငန်း ဖြစ်ပါသဖြင့် ကနဦး အဆိုပြုချက်ပါ ပြည်ပမှတင်သွင်းမည့် ပစ္စည်းများစာရင်းသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စိစစ်၍ တင်ပြထားသော စာရင်းဖြစ်ပါသဖြင့် ရည်ညွှန်း (၁)ပါဖြင့် တင်ပြသောစာရင်းနှင့် တူညီနေခြင်း ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့် Sein Kaung Yadanar Trading Co.,Ltd တို့ ပူးပေါင်းပြီး Myanmar Sule Terminal Limited အမည်ဖြင့် ဖက်စပ်ကုမ္ပဏီ တည်ထောင်၍ ရန်ကုန် ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄)တို့အား အဆင့်မြှင့်တင် ပြုပြင်ခြင်းလုပ်ငန်းတွင် အသုံးပြုမည့် တည်ဆောက်ရေးလုပ်ငန်းသုံးပစ္စည်းများ၊ ကုန်ကိုင်တွယ် စက်ကိရိယာများ စာရင်းအား စိစစ်၍ **နောက်ဆက်တွဲ(က)** ဖြင့် ပူးတွဲ တင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သက်ထွန်း - ရုံးအဖွဲ့မှူး

မိတ္တူကို-

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရ**

**ပို့ဆောင်ရေးဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁)၂၀၁၄(က)(၁၂/ ၁၃၃၂)

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ ၄ ရက်

အကြောင်းအရာ။ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Co., Ltd တို့ ပူးပေါင်း၍ Myanmar Sule Terminal Limited ဖွဲ့စည်းတည်ထောင်ပြီး ရန်ကုန်ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား ကုန်သေတ္တာနှင့် အထွေထွေ ကုန်စည်ကိုင် အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင် ပြုပြင် တည်ဆောက်ကာ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ကိစ္စ**

၁။ ရန်ကုန်ဆိပ်ကမ်းဖွံ့ဖြိုးတိုးတက်ရေး ကိစ္စနှင့်ပတ်သက်၍ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား ကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင် အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းအဖြစ် အဆင့်မြှင့် ပြုပြင်တည်ဆောက်ခြင်း၊ ကုန်ကိုင်တွယ်ကိရိယာများ တပ်ဆင်ခြင်း၊ နောက်ခံမြေပေါ်တွင် ဆိပ်ကမ်းဆိုင်ရာအဆောက်အအုံများ တည်ဆောက်ပြီး ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန်ကိစ္စကို ပို့ဆောင်ရေးဝန်ကြီးဌာနသို့ တင်ပြခဲ့ရာ၊ ပို့ဆောင်ရေးဝန်ကြီးဌာန အလုပ်အမှုဆောင်အဖွဲ့မှ မူအားဖြင့် သဘောတူညီပါကြောင်းနှင့် အများပြည်သူများအား အသိပေးရန် သတင်းစာတွင် ကြော်ငြာထည့်သွင်းဖော်ပြ၍ တင်ဒါခေါ်ယူဆောင်ရွက်သွားရန် **နောက်ဆက်တွဲ(က)**ပါ စာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ ရန်ကုန်ဆိပ်ကမ်းဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းများဆောင်ရွက်ရာတွင် ပုဂ္ဂလိကအခန်းကဏ္ဍပါဝင် ဆောင်ရွက်နိုင်ရန်အတွက် အများပြည်သူများအား ဖိတ်ကြားရှင်းလင်းသည့်အခမ်းအနားကို ၉.၈.၂၀၁၂ ရက်နေ့တွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်(ရုံးချုပ်)၌ ကျင်းပပြုလုပ်ခဲ့ပြီး ပို့ဆောင်ရေးဝန်ကြီးဌာနမှလည်း တင်ဒါစိစစ်ရွေးချယ်ရေးအဖွဲ့ကို **နောက်ဆက်တွဲ(ခ)**ပါ စာဖြင့် ဖွဲ့စည်းတာဝန်ပေးအပ်ခဲ့ပါသည်။

၃။ ထို့ပြင် ရန်ကုန်ဆိပ်ကမ်းအား နိုင်ငံတကာခေတ်မီဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင်ရေးလုပ်ငန်းများကို ဆက်လက်ဆောင်ရွက်သွားရန် နိုင်ငံတော်သမ္မတရုံးမှ **နောက်ဆက်တွဲ(ဂ)**ပါ စာဖြင့် ညွှန်ကြားခဲ့ပါသည်။

၄။ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား အဆင့်မြှင့်တင် ပြုပြင်တည်ဆောက်ခြင်းလုပ်ငန်း တင်ဒါနှင့်ပတ်သက်၍ မြန်မာ့အလင်းသတင်းစာ၊ ကြေးမုံသတင်းစာ နှင့် The New Light of Myanmar သတင်းစာတို့တွင်ကြော်ငြာထည့်သွင်းခဲ့ပြီး ၂၃.၈.၂၀၁၂ ရက်နေ့နှင့် ၂၄.၈.၂၀၁၂ ရက်နေ့တို့တွင် တင်ဒါပုံစံနှင့် တင်ဒါစည်းကမ်းချက်များကို ရောင်းချခဲ့ပါသည်။ တင်ဒါတင်သွင်းသည့်

ကုမ္ပဏီ(၇)ခုရှိပြီး ၂၅.၁၀.၂၀၁၂ ရက်နေ့တွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်(ရုံးချုပ်)၌ ပို့ဆောင်ရေးဝန်ကြီးဌာနမှ ဖွဲ့စည်းတာဝန်ပေးအပ်ထားသော တင်ဒါစိစစ်ရွေးချယ်ရေးအဖွဲ့ဖြင့် စိစစ်ရွေးချယ်ခဲ့ပါသည်။

၅။ တင်ဒါတင်သွင်းသည့် ကုမ္ပဏီ(၇)ခုအနက် အမှတ်အများဆုံးရရှိသည့် ကုမ္ပဏီ(၃)ခုကို ပထမအဆင့်အနေဖြင့် ပဏာမရွေးချယ်ခဲ့ပါသည်။ အဆိုပါ ကုမ္ပဏီ (၃)ခုအနက် အမှတ်အများဆုံးရရှိသည့် Myanmar Harmony Management Co., Ltd အား လုပ်ငန်း ဆက်လက်ဆောင်ရွက်နိုင်ရန်အတွက် ငွေကြေးခိုင်မာမှု အထောက်အထားနှင့် လိုအပ်သောအချက်အလက်များကို တောင်းခံခဲ့ရာ တင်ပြနိုင်ခြင်း မရှိပါသဖြင့် ဆက်လက်မဆွေးနွေးတော့ဘဲ ဒုတိယအမှတ်အများဆုံးရရှိသည့် Sein Kaung Yadanar Co., Ltd နှင့် ဆက်လက် ဆွေးနွေးခဲ့ပါသည်။

၆။ ထို့ကြောင့် Sein Kaung Yadanar Co., Ltd အား လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ (၃၀)နှစ်ခွင့် ပြုသည့် Joint Venture (JV) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်နှင့် ခွင့်ပြုပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Co., Ltd တို့အကြား ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)များကို နှစ်ဖက်ညှိနှိုင်းရေးဆွဲပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်တောင်းခံပြီးနောက် ပို့ဆောင်ရေးဝန်ကြီးဌာန မှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ဆက်လက်တင်ပြ ခွင့်ပြုနိုင်ပါရန်ကိစ္စကို ၂၉.၅.၂၀၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး အမှတ်စဉ်(၇/၂၀၁၃)က သဘောတူညီပြီး ဖြစ်ပါသည်။

၇။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Co., Ltd တို့ပူးပေါင်း၍ ဖက်စပ်စနစ် (Joint Venture) ဖြင့် Myanmar Sule Terminal Limited ဖွဲ့စည်းတည်ထောင်ပြီး ရန်ကုန်ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား ကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင် အပြည်ပြည်ဆိုင်ရာဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင် ပြုပြင်တည်ဆောက်ကာ ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများဆောင်ရွက်မည့် မြေဧရိယာစုစုပေါင်းသည် (၁၅.၄၉၆ ဧက) ရှိပါသည်။ စီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၁၃၀.၃၁) သန်းဖြစ်ပြီး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ အမေရိကန်ဒေါ်လာ (၆၀)သန်း နှင့် Sein Kaung Yadanar Co., Ltd မှ အမေရိကန်ဒေါ်လာ (၇၀.၃၁) သန်း ထည့်ဝင်မည် ဖြစ်ပါသည်။ Myanmar Sule Terminal Limited မှ ရရှိသည့် အကျိုးအမြတ်များ ခွဲဝေရာတွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ (၆၀)ရာခိုင်နှုန်းနှင့် Sein Kaung Yadanar Co., Ltd မှ (၄၀)ရာခိုင်နှုန်း အချိုးဖြင့် ခွဲဝေခံစားမည် ဖြစ်ပါသည်။ ထို့အပြင် ဖက်စပ် စာချုပ် လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ နှစ်စဉ်အကျိုးအမြတ်ဝေစုခွဲဝေရာတွင် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်မှ ရရှိသည့်အမြတ်ဝေစုသည် လက်ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ဝင်ငွေဖြစ်သော အမေရိကန်ဒေါ်လာ(၅)သန်းထက် လျော့နည်းနေပါက အဆိုပါလျော့နည်းသွားသော ငွေပမာဏကို Sein Kaung Yadanar Co., Ltd မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ဖြည့်စွက်

ပေးသွင်းရမည် ဖြစ်ပါသဖြင့် ဖော်ပြပါ ဆူးလေ (၁)မှ (၄)အထိ ဆိပ်ကမ်းများအား အဆင့်မြှင့်ပြုပြင်၍ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများကို ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ခြင်းကြောင့် ရရှိမည့်ဝင်ငွေမှာ လက်ရှိဝင်ငွေထက် လျော့နည်းသွားခြင်း မရှိပါကြောင်း တင်ပြအပ်ပါသည်။

၈။ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄)တို့၏ စုစုပေါင်းဆိပ်ခံတံတား မျက်နှာစာ အလျားမှာ (၅၄၈)မီတာရှိပြီး ပထမအဆင့် တည်ဆောက်ရေးလုပ်ငန်းတွင် ဆိပ်ခံတံတား မျက်နှာစာ အလျား (၁၃၇)မီတာအား ကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင် အပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတား အဖြစ် အဆင့်မြှင့်တင် ပြုပြင်တည်ဆောက်ခြင်း၊ အဆိုပါ ဆိပ်ခံတံတားပေါ်တွင် ကုန်ကိုင်တွယ် စက်ကိရိယာများ တပ်ဆင်ခြင်း၊ နောက်ခံမြေပေါ်တွင် ဆိပ်ကမ်းဆိုင်ရာ အဆောက်အအုံများ တည်ဆောက်ခြင်း၊ ကုန်သေတ္တာလွင်ပြင်များနှင့် ကုန်ကိုင်တွယ်စက်ကိရိယာများတပ်ဆင်ခြင်း စသည့် လုပ်ငန်းတို့ ပါဝင်မည် ဖြစ်ပါသည်။ ထို့အပြင် ကျန်ရှိသည့်အဆင့်အလိုက် တည်ဆောက်ရေးလုပ်ငန်းများ၌ ဆိပ်ခံတံတား မျက်နှာစာအလျား (၄၁၁)မီတာအား ကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင် အပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားအဖြစ် အဆင့်မြှင့်တင် ပြုပြင်တည်ဆောက်ခြင်း၊ အဆိုပါ ဆိပ်ခံတံတားပေါ်တွင် ကုန်ကိုင်တွယ် စက်ကိရိယာများ တပ်ဆင်ခြင်း၊ နောက်ခံမြေပေါ်တွင် ဆိပ်ကမ်းဆိုင်ရာ အဆောက်အအုံများ တည်ဆောက်ခြင်းနှင့် ကုန်ကိုင်တွယ် စက်ကိရိယာများ တပ်ဆင်ကာ ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် နည်းဥပဒေပါ အခွင့်အရေးများကို ခံစားစေ၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် စီမံကိန်းအဆိုပြုလွှာ (Project Proposal) ကို အပိုဒ်(၇)တွင် ဖော်ပြထားသည့် ဖက်စပ် ကုမ္ပဏီဖွဲ့စည်း တည်ထောင်ရန် ဆောင်ရွက်နေသည့် Myanmar Sule Terminal Limited မှ **နောက်ဆက်တွဲ(ဃ)**ပါ စာဖြင့် တင်ပြထားပါသည်။

၉။ စီမံကိန်းအဆိုပြုလွှာတွင် အောက်ပါအချက်များ အဓိကပါဝင်ပါသည် -

| | | |
|---|---|---|
| (က) | စီမံကိန်းတည်နေရာ | - ရန်ကုန်ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံ တံတား အမှတ်(၁၊ ၂၊ ၃၊ ၄) |
| (ခ) | စုစုပေါင်းမြေဧရိယာ | - ၁၅.၄၉၆ ဧက (၆၂၇၁၂.၃၁ စတုရန်းမီတာ) |
| (ဂ) | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏ | - US $ (၁၃၀.၃၁) သန်း |
| (ဃ) | ထည့်ဝင်မှု ရင်းနှီးမြှုပ်နှံမှုပမာဏ | - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ US $ (၆၀) သန်း |
| | | - Sein Kaung Yadanar Co., Ltd မှ US $ (၇၀.၃၁) သန်း |
| (င) | တည်ဆောက်ရေး ကာလ | |
| | (၁) ပထမအဆင့် တည်ဆောက်ရေး လုပ်ငန်း | - သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီး (၂၄)လ |
| | (၂) အဆင့်အလိုက် တည်ဆောက်ရေး လုပ်ငန်းများ | - သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီး (၉၆)လ |

(စ) မြေငှားရမ်းကာလ/လုပ်ငန်းလုပ်ကိုင်ခွင့် - (၃၀)နှစ်
ကာလ

(ဆ) ဖက်စပ်ကုမ္ပဏီမှရရှိသည့်အကျိုးအမြတ်
အပေါ် ခွဲဝေမှုရာခိုင်နှုန်း

(၁) မြန်မာ့ဆိပ်ကမ်းအာဏာပိုင် - ၆၀ ရာခိုင်နှုန်း

(၂) Sein Kaung Yadanar Co., Ltd - ၄၀ ရာခိုင်နှုန်း

(ဇ) လစဉ် မြေငှားရမ်းခ - US $ ၁၁၀၉၃၈.၀၈
(တစ်စတုရန်းမီတာလျှင် US $ ၁.၇၆၉
နှုန်း)

၁၀။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Co., Ltd တို့ပူးပေါင်း၍ Myanmar Sule Terminal Limited ဖွဲ့စည်းတည်ထောင်ပြီး ရန်ကုန်ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား ကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင် အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင် ပြုပြင်တည်ဆောက်ကာ ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများကို ဖက်စပ်စနစ် (Joint Venture)ဖြင့် လုပ်ငန်းအကောင်အထည်ဖော်မည့် ကိစ္စနှင့်ပတ်သက်၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Co., Ltd တို့အကြား ချုပ်ဆိုမည့် ဖက်စပ်သဘောတူစာချုပ် (မူကြမ်း)နှင့် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့် Myanmar Sule Terminal Limited တို့အကြား ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း) တို့ကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်နှင့် အကြံပြုချက်များတောင်းခံခဲ့ပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အကြံပြုချက်များအတိုင်း သဘောတူစာချုပ်(မူကြမ်း)များကို ညှိနှိုင်း ပြင်ဆင်ပြုစုရေးဆွဲထားပြီး ဖြစ်ပါသည်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် ပြန်ကြားစာနှင့် ညှိနှိုင်းပြင်ဆင် ပြုစုရေးဆွဲထားသော သဘောတူစာချုပ်(မူကြမ်း)များကို **နောက်ဆက်တွဲ(င)** ပါစာဖြင့် ပူးတွဲတင်ပြထားပါသည်။

၁၁။ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား အဆင့်မြှင့်တင် ပြုပြင်တည်ဆောက်ပြီး ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်ကိစ္စနှင့်ပတ်သတ်၍ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်တားဆီးရေးစီမံချက်ကို **နောက်ဆက်တွဲ(စ)**ပါစာဖြင့် လည်းကောင်း၊ ဝန်ထမ်းများ လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်ကို **နောက်ဆက်တွဲ(ဆ)**ပါ စာဖြင့် လည်းကောင်း၊ စီမံကိန်းတည်ဆောက်ရေးကာလနှင့် တည်ဆောက်ရေးကာလ ပြီးစီးပြီးနောက် စီမံကိန်းလုပ်ငန်းကြောင့် နောင်အနာဂတ်တွင် ဖြစ်ပေါ်လာမည့် သဘာဝပတ်ဝန်းကျင်အပေါ် သက်ရောက်မှု (Environmental Impact Assessment) ဆန်းစစ်ချက်ကို Green Environmental Health, Safety & Social Consultancy Co., Ltd မှ လေ့လာ တိုင်းတာနေပါကြောင်းကို **နောက်ဆက်တွဲ(ဇ)**ပါ စာဖြင့် လည်းကောင်း ပူးတွဲတင်ပြထားပါသည်။

-

၁၂။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Co., Ltd တို့ပူးပေါင်း၍ Myanmar Sule Terminal Limited ဖွဲ့စည်းတည်ထောင်ပြီး ရန်ကုန်ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား ကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင် အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင် ပြုပြင်တည်ဆောက်ကာ ဆိပ်ကမ်း ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုခြင်းအတွက် နိုင်ငံတကာအဆင့်မီ ခေတ်မီဆိပ်ကမ်းတစ်ခု ပေါ်ပေါက်လာသည့်အပြင် တိုးတက်များပြားလာသော ပင်လယ်ရေကြောင်း ကုန်သွယ်မှုလုပ်ငန်းများကို နိုင်နင်းစွာကိုင်တွယ်နိုင်ပြီး နိုင်ငံတော်၏ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို များစွာအထောက်အကူဖြစ်စေနိုင်မည်ဖြစ်ပါသည်။

၁၃။ သို့ဖြစ်ပါ၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Co., Ltd တို့ပူးပေါင်း၍ ဖက်စပ်စနစ် (Joint Venture) ဖြင့် Myanmar Sule Terminal Limited ဖွဲ့စည်းတည်ထောင်ပြီး ရန်ကုန်ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံတံတား အမှတ်(၁၊ ၂၊ ၃၊ ၄) တို့အား ကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင် အပြည်ပြည်ဆိုင်ရာဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင် ပြုပြင်တည်ဆောက်ကာ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုရန် ဖြစ်ပါသည်။ ထိုကဲ့သို့ ခွင့်ပြုခြင်းအတွက် Myanmar Sule Terminal Limited မှ ရရှိသည့် အကျိုးအမြတ်ကို ခွဲဝေရာ၌ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ (၆၀) ရာခိုင်နှုန်း၊ Sein Kaung Yadanar Co., Ltd မှ (၄၀)ရာခိုင်နှုန်း ခွဲဝေခံစားမည်ဖြစ်ပြီး ဖက်စပ်စာချုပ် လက်မှတ်ရေးထိုးပြီးသည့် နေ့မှစ၍ နှစ်စဉ် အကျိုးအမြတ် ဝေစုခွဲဝေရာတွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ရရှိသည့်အမြတ်ဝေစုသည် လက်ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ဝင်ငွေဖြစ်သော အမေရိကန်ဒေါ်လာ(၅)သန်းထက် လျော့နည်းနေပါက အဆိုပါလျော့နည်းသွားသော ငွေပမာဏကို Sein Kaung Yadanar Co., Ltd မှ မြန်မာ့ ဆိပ်ကမ်းအာဏာပိုင်သို့ ဖြည့်စွက် ပေးသွင်းရမည် ဖြစ်ပါသည်။ ထို့အပြင် လစဉ်မြေငှားရမ်းခ အနေဖြင့် တစ်စတုရန်းမီတာကို အမေရိကန်ဒေါ်လာ (၁.၇၆၉)နှုန်းဖြင့် စုစုပေါင်းအမေရိကန်ဒေါ်လာ(၁၁၀၉၃၈.၀၈) (အမေရိကန်ဒေါ်လာတစ်သိန်းတစ်သောင်းကိုးရာသုံးဆယ့်ရှစ်ဒသမသုညရှစ်)ကို Myanmar Sule Terminal Limited မှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးဆောင်စေလျက် မြေငှားရမ်းကာလ/လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ (၃၀)နှစ် ခွင့်ပြုသည့် ဖက်စပ် စနစ်(Joint Venture) ဖြင့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် နည်းဥပဒေပါ အခွင့်အရေးများကို ခံစားခွင့်ပြုလျက် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဥာဏ်ထွန်းအောင်
ပြည်ထောင်စုဝန်ကြီး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ
ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၅၂-ပဆ/ခွဲ (၁) ၂၀၁၂ (က)(၇/၁၆၈)
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဇူလိုင်လ ၁၂ ရက်

**အကြောင်းအရာ။** ရန်ကုန်ဆိပ်ကမ်း ဖွံ့ဖြိုးတိုးတက်ရေး စီမံကိန်းလျာထားချက် (Port Master Plan) ရေးဆွဲတင်ပြခြင်း

**ရည်ညွှန်းချက်။** မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ၁၆.၆. ၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ဆက/မြို့ပြ (JV)/၁၀၄၀/၂၀၁၂

၁။ ရန်ကုန်ဆိပ်ကမ်းအား နိုင်ငံတကာအဆင့်မီ ခေတ်မီဆိပ်ကမ်းကြီးအဖြစ် ဆောင်ရွက်သွားမည့် ရန်ကုန်ဆိပ်ကမ်း ဖွံ့ဖြိုးတိုးတက်ရေး စီမံကိန်းလျာထားချက် (Port Master Plan)အား "မူ" အားဖြင့် ခွင့်ပြုပါက အသေးစိတ်လေ့လာ တိုင်းတာတွက်ချက်မှုများပြုလုပ်၍ လိုအပ်သော Criteria အချက်အလက်များကို သတင်းစာတွင်ဖော်ပြ၍ တင်ဒါခေါ်ယူဆောင်ရွက်ခွင့် ပြုပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ (၁၈.၆.၂၀၁၂)ရက်နေ့တွင် ကျင်းပသော ပို့ဆောင်ရေးဝန်ကြီးဌာန၊ အလုပ်အမှုဆောင်အဖွဲ့အစည်းအမှတ်(၆/၂၀၁၂)မှ "မူ" အားဖြင့် သဘောတူကြောင်း ဆုံးဖြတ်ပြီး ဖြစ်ပါသဖြင့် အများပြည်သူများအားအသိပေးရန် သတင်းစာတွင် ကြော်ငြာထည့်သွင်းဖော်ပြ၍ တင်ဒါခေါ်ယူဆောင်ရွက်နိုင်ရေး (၂၀.၇.၂၀၁၂) ရက်နေ့တွင် ပြီးပြတ်အောင်ဆောင်ရွက်သွားရန်နှင့် ဆောင်ရွက်ပြီးစီးမှုအခြေအနေအား ဤဝန်ကြီးရုံးသို့ ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
ဝင်းဇော် - အဖွဲ့ခွဲမှူး

<u>ဦးဆောင်ညွှန်ကြားရေးမှူး</u>
<u>မြန်မာ့ဆိပ်ကမ်းအာဏာပိုင်</u>

၂၄/၇

W:\Hla\data (d)\KHWE-1 (WATER TRANSPORT)\2012\52 - PA SA (MPA)\1-2012\52 - PA SA (KA).doc

ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
ခွဲ(၁)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁)၂၀၁၂ (ည) (၈/၂၅၂)
ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဩဂုတ်လ ၂၁ ရက်

အကြောင်းအရာ။ **တင်ဒါစိစစ်ရွေးချယ်ရေးအဖွဲ့ ဖွဲ့စည်းတာဝန် ပေးအပ်ခြင်း**

၁။ ရန်ကုန်ဆိပ်ကမ်း ဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းများတွင် ပုဂ္ဂလိက ကဏ္ဍမှ ပါဝင်ဆောင်ရွက်နိုင်ရန်အတွက် တင်ဒါစိစစ်ရွေးချယ်ရေးအဖွဲ့အား အောက်ပါအတိုင်း ဖွဲ့စည်းတာဝန် ပေးအပ်လိုက်သည် -

| | | |
|---|---|---|
| (က) | ဒုတိယဝန်ကြီး<br>ပို့ဆောင်ရေးဝန်ကြီးဌာန | ဥက္ကဌ |
| (ခ) | ညွှန်ကြားရေးမှူးချုပ်<br>လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန | အဖွဲ့ဝင် |
| (ဂ) | ဦးဆောင်ညွှန်ကြားရေးမှူး<br>မြန်မာ့သင်္ဘောကျင်းလုပ်ငန်း | အဖွဲ့ဝင် |
| (ဃ) | ဦးဆောင်ညွှန်ကြားရေးမှူး<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | အဖွဲ့ဝင် |
| (င) | အထွေထွေမန်နေဂျာ<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | အဖွဲ့ဝင် |
| (စ) | စာရင်းကိုင်ချုပ်<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | အဖွဲ့ဝင် |
| (ဆ) | ဒု - အထွေထွေမန်နေဂျာ (ကုန်လုပ်ငန်း)<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | အဖွဲ့ဝင် |
| (ဇ) | ပစ္စည်းထိန်းချုပ်<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | အဖွဲ့ဝင် |
| (ဈ) | ဒု - မြို့ပြအင်ဂျင်နီယာချုပ် (သောင်တူး)<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | တွဲဖက်အတွင်းရေးမှူး |
| (ည) | မြို့ပြအင်ဂျင်နီယာချုပ်<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | အတွင်းရေးမှူး |

၂။ တင်ဒါစိစစ်ရွေးချယ်ရေးအဖွဲ့ အနေဖြင့် အောက်ပါကိစ္စရပ်များကို စိစစ်၍ စနစ်တကျ ဆောင်ရွက်သွားရမည် ဖြစ်ပါသည် -

(က) ကုမ္ပဏီ/အဖွဲ့အစည်း/လုပ်ငန်းရှင်များမှ တင်ပြလာသည့် တင်ဒါများကို စစ်ဆေး စိစစ်ခြင်း၊

(ခ) တင်ဒါတင်သွင်းလာသူများသည် မှန်ကန်ခိုင်မာသည့် ကုမ္ပဏီ/အဖွဲ့အစည်း/လုပ်ငန်းရှင်များ မှန်/မမှန် စိစစ်ခြင်း၊

(ဂ) တင်ပြလာသည့် တင်ဒါများသည် တင်ဒါ စည်းမျဉ်းစည်းကမ်းများနှင့် ကိုက်ညီမှု ရှိ/မရှိ စိစစ်ခြင်း၊

(ဃ) တင်ပြလာသည့် တင်ဒါများသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ဆိပ်ကမ်းဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းလိုအပ်ချက်နှင့် ကိုက်ညီမှု ရှိ/မရှိ စိစစ်ခြင်း၊

(င) ကုမ္ပဏီ/အဖွဲ့အစည်း/လုပ်ငန်းရှင်များမှ တင်ပြလာသော ဆိပ်ကမ်းဖွံ့ဖြိုးတိုးတက်ရေး လျာထားချက်များသည် ဌာနဆိုင်ရာလုပ်ငန်းများ၊ လက်ရှိဆောင်ရွက်နေသော လုပ်ငန်းများ ထိခိုက်မှု ရှိ/မရှိ စိစစ်ခြင်း၊

(စ) တင်သွင်းလာသည့် တင်ဒါများမှ နိုင်ငံတော်နှင့် ဌာန၏ လိုအပ်ချက်နှင့် ကိုက်ညီမှုရှိသော တင်ဒါများ အကျိုးစီးပွားအများဆုံး ရရှိနိုင်သည့်တင်ဒါများကို စိစစ်ရွေးချယ်၍ ပို့ဆောင်ရေး ဝန်ကြီးဌာနသို့ တင်ပြလမ်းညွှန်မှု ခံယူခြင်း၊

(ဆ) ပို့ဆောင်ရေးဝန်ကြီးဌာနနှင့် အထက်အဖွဲ့အစည်းများမှ အခါအားလျော်စွာ လမ်းညွှန်ချက် များကို လိုက်နာအကောင်အထည်ဖော်ခြင်း၊

(signature)

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - ရုံးအဖွဲ့မှူး

ဥက္ကဋ္ဌနှင့် အဖွဲ့ဝင်များအားလုံး

မိတ္တူကို-

- လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
- မြန်မာ့သင်္ဘောကျင်းလုပ်ငန်း
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

13 10 07

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၅၁ ( ၁ ) / ၇ / သမ္မတရုံး

ရက်စွဲ၊၂၀၁၂ခုနှစ်၊ အောက်တိုဘာလ ၂၃ ရက်

သို့

ပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **ရန်ကုန်ဆိပ်ကမ်းအား နိုင်ငံတကာအဆင့်မီ ဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင်ရေး ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ ယင်း၏ ၁၉-၁၀-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ၅၂-ပဆ/ခွဲ(၁)၂၀၁၂(က)(၁၀/၃၅၈)

ပို့ဆောင်ရေးဝန်ကြီးဌာန၏ ပြုပြင်ပြောင်းလဲရေး စီမံချက်အရ ရေကြောင်းကဏ္ဍဖွံ့ဖြိုးတိုးတက်ရေး ဆောင်ရွက်မည့် အစီအစဉ်များအနက် ရန်ကုန်ဆိပ်ကမ်းအား နိုင်ငံတကာအဆင့်မီ ဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင်နိုင်ရေး ဆောင်ရွက်ထားရှိမှုအခြေအနေကို သိရှိနိုင်ပါရန်နှင့် လုပ်ငန်းများ ဆက်လက်ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ပုံ/

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန(၃)

ပို့ဆောင်ရေး ဝန်ကြီးဌာန မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့်
စိန်ကောင်းရတနာ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် တို့ပူးပေါင်း၍

**Myanmar Sule Terminal Limited**

# ဖွဲ့စည်းတည်ထောင်ပြီး
# ကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင်
# အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းအဖြစ်
# လုပ်ငန်းဆောင်ရွက်ရန်

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# အဆိုပြုတင်ပြချက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ဆိပ်ကမ်း အာဏာပိုင်

စာအမှတ် ။ ။ ဆက/မရက–၁/၂၀၁၄

ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ(၂..) ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ရန်ကုန်ဆိပ်ကမ်း၊ဆူးလေဆိပ်ခံတံတားအမှတ်(၁)၊ (၂)၊ (၃) နှင့် (၄) တို့အား အဆင့်မြှင့်တင်ပြုပြင်တည်ဆောက်ပြီး ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် အဆိုပြုချက်ပြုစုတင်ပြခြင်း။

၁။ ပို့ဆောင်ရေးဝန်ကြီးဌာန ၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် စိန်ကောင်းရတနာ ကုမ္ပဏီလီမိတက် တို့ ပူးပေါင်း၍ **Myanmar Sule Terminal Limited** အမည်ဖြင့် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်ပြီး ရန်ကုန်ဆိပ်ကမ်း ဆူးလေဆိပ်ခံတံတားအမှတ် (၁) (၂) (၃) နှင့် (၄) တို့အား ကုန်သေတ္တာ နှင့် အထွေထွေကုန်စည်ကိုင် အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းအဖြစ်အဆင့်မြှင့်တင် ပြုပြင်တည်ဆောက်ပြီး ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ရန် အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်ရရှိရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ တင်ပြနိုင်ရန်အဆိုပြုချက်ကို ပြုစု တင်ပြအပ်ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ ၏လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်။

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့်ပက်သက်၍ တွက်ချက်မှုဇယားများ၊

(ဂ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(ဃ) ဖက်စပ်ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (မူကြမ်း)၊

(င) မီးဘေးလုံခြုံရေး စီမံချက်၊

(စ) ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊

(ဆ) EIA ဆောင်ရွက်ရန် Green Environmental , Health , Safety & Social Consultancy Co., Ltd သို့ လုပ်ငန်းအပ်နှံထားကြောင်း အထောက်အထား၊

(ဇ) ဖက်စပ် သဘောတူ စာချုပ် (မူကြမ်း)၊

(ဈ) မြေငှားစာချုပ် (မူကြမ်း)၊

(ည) ဖက်စပ်သဘောတူစာချုပ် (မူကြမ်း) နှင့် မြေငှားစာချုပ် (မူကြမ်း) တို့အပေါ် ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊

၃။ အဆိုပြုချက်နှင့် ပူးတွဲစာရွက်စာတမ်းများအပေါ် စိစစ်အတည်ပြုပြီး မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ခွင့်ပြုမိန့်ရရှိရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ ဆက်လက်တင်ပြပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

တင်မောင်ဝင်း
အဆိုပြုဒါရိုက်တာ
**Myanmar Sule Terminal Limited**

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ (၃၀) ရက်

အကြောင်းအရာ။ ။ **"Myanmar Sule Terminal Limited"** မှ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပက်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ **"Myanmar Sule Terminal Limited"** သည် ဆူးလေ ဆိပ်ခံတံတားအမှတ် (၁) (၂) (၃) နှင့် (၄) ဆိပ်ခံတံတားများအပါအဝင် ၄င်းဆိပ်ကမ်းဝင်းတည်ရှိရာ မြေကွက်စုစုပေါင်း ဧရိယာ (၁၅.၄၉၆) ဧကပေါ်တွင် ရင်းနှီးမြှုပ်နှံမှုပြုလုပ်ပြီး ကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင် အပြည့်ပြည့်ဆိုင်ရာဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင်ပြုပြင် တည်ဆောက်ပြီး ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ရာတွင် ဖက်စပ်စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်

၂။ ထိုသို့လျှောက်ထားရာတွင်ဆိပ်ကမ်းလုပ်ငန်းဖြစ်၍ သက်ဆိုင်ရာဌာန/ အဖွဲ့အစည်းအသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

တင်မောင်ဝင်း

အဆိုပြုဒါရိုက်တာ

**Myanmar Sule Terminal Limited**

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ (၃၀) ရက်

အကြောင်းအရာ။ ။ နိုင်ငံသားများသာ ပိုင်ဆိုင်ကြောင်း ဝန်ခံချက်တင်ပြခြင်း

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သတ်၍ ကျွန်တော်တို့၏ "**Myanmar Sule Terminal Limited**" သည် မြန်မာနိုင်ငံသား စီးပွားရေး လုပ်ငန်းရှင်များသာ ပိုင်ဆိုင်သော ကုမ္ပဏီဖြစ်ကြောင်း ဝန်ခံတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

တင်မောင်ဝင်း

အဆိုပြုဒါရိုက်တာ

**Myanmar Sule Terminal Limited**

## ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း နိုင်ငံသားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

စာအမှတ် ။ သကက / မြို့ပြ (ဘူးလေ) / ၂၀၃၀ / ၂၀၁၄
ရက်စွဲ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ (၂ ) ရက်

ကျွန်တော်/ကျွန်မ သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက် များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ကမကထပြုသူ၏

| | | | |
|---|---|---|---|
| (က) | အမည် | - | ဦးဆောင်ညွှန်ကြားရေးမှူး<br>မြန်မာဆိပ်ကမ်းအာဏာပိုင် |
| (ခ) | အဖအမည် | - | |
| (ဂ) | အမျိုးသားမှတ်ပုံတင်အမှတ် | - | ၁၂/မဘန(နိုင်) ၀၀၆၁၇၆ |
| (ဃ) | မည်သည့်နိုင်ငံသား | - | မြန်မာနိုင်ငံသား |
| (င) | နေရပ်လိပ်စာ | - | (၄/အီး) ဗောဓိရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊<br>ရန်ကုန်မြို့ |
| (စ) | ပင်မအဖွဲ့အစည်း | - | မြန်မာ့ဆိပ်ကမ်းအာဏာပိုင် |
| (ဆ) | လုပ်ငန်းအမျိုးအစား | - | |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - | ရန်ကုန်မြို့ |
| (ဈ) | ဖွဲ့စည်းရာအရပ် | - | ရန်ကုန်မြို့ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ကမကထပြုသူနှင့် ဖက်စပ်ပြုလုပ်မည့်သူများ၏ -

| | | | |
|---|---|---|---|
| (က) | အမည် | - | ဦးတင်မောင်ဝင်း |
| (ခ) | အဖအမည် | - | ဦးဝင်းမောင် |
| (ဂ) | နိုင်ငံသား၊ အမျိုးသားမှတ်ပုံတင်အမှတ် | - | ၁၂/ဗဟန (နိုင်) ၀၄၅၂၇၈ |
| (ဃ) | နေရပ်လိပ်စာ | - | အမှတ်( ၂၂ )၊ ဗောဓိရိပ်သာလမ်း ၊<br>ရွှေတောင်ကြား(၂) ရပ်ကွက်၊<br>ဗဟန်း မြို့နယ်၊ရန်ကုန်မြို့ |
| (င) | လူမျိုး၊ ဘာသာ | - | ဗမာ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | - | Sein Kaung Yadanar Trading Co.,Ltd |

(ဆ) လုပ်ငန်းအမျိုးအစား -

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် - အမှတ်(၃)၊ မင်းနန္ဒအိမ်ယာ၊သာကေတမြို့နယ်၊ ရန်ကုန်မြို့

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -

(ခ) ဝန်ဆောင်မှုလုပ်ငန်း - ဆိပ်ခံတံတား တည်ဆောက် ၍ အထွေထွေကုန် ပစ္စည်း နှင့် ကုန်သေတ္တာ သင်္ဘောများ ဆိုက်ကပ်၍ ကုန်တင်ကုန်ချ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်း။

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ် လုပ်ကိုင်ဆောင်ရွက်ခြင်း -

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံခြားသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - ဖက်စပ်အသွင်သဏ္ဍာန်

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန် -

(က) တစ်ဦးတည်းပိုင် -

(ခ) ဖက်စပ်၊ အစုစပ်လုပ်ငန်း -

(ဂ) လီမိတက်ကုမ္ပဏီ - ကုမ္ပဏီလီမိတက် (နောက်ဆက်တွဲ)

(ဃ) သမဝါယမအသင်း -

၆။ ဖက်စပ်၊ အစုစပ်လုပ်ငန်းဖြစ်ပါက

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေ အမျိုးအစားနှင့် ပမာဏ -

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား -

(ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ -

၇။ လီမိတက်ကုမ္ပဏီဖြစ်ပါက

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် /- ၁၄၇,၀၀၀,၀၀၀,၀၀၀ (ကျပ်သန်းတစ်သိန်းလေးသောင်းခုနှစ်ထောင်တိတိ)

(ခ) အစုရှယ်ယာအမျိုးအစား - တစ်စုလျှင် ကျပ် ၁၀၀၀၀/- (ကျပ်တစ်သောင်းတိတိ)

အစုရှယ်ယာ ၁၄,၇၀၀,၀၀၀

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် - ကျပ် ၁၂၇,၇၀၃,၈၀၀,၀၀၀/-

(ကျပ် သန်းပေါင်း တစ်သိန်းနှစ်သောင်းခုနှစ်ထောင် ခုနှစ်ရာ သုံးနှင့် ရှစ်သိန်းတိတိ)

အစုရှယ်ယာပမာဏတစ်စုလျှင် ကျပ်

( ၁၀,၀၀၀ )တန် အစုရှယ်ယာ ( ၁၂,၇၇၀,၃၈၀ )

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်အဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ

(က) မတည်ရင်းနှီးငွေပမာဏ (ယခုအဆိုပြုလုပ်ငန်းအတွက်)

| | (ကျပ်) (သန်းပေါင်း) | (USD) (Million) | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု (သန်းပေါင်း) ကျပ်ဖြင့် |
|---|---|---|---|
| (၁) ငွေပမာဏ | - ၂,၃၃၂ | | ၂,၃၃၂ |
| (၂) စက်ပစ္စည်းများ နှင့်လျှပ်စစ်ပစ္စည်းများ | - | ၈. ၉၀ | ၈,၇၂၂ |
| (၃) အဆောက်အဦး | - | ၆၈. ၇၆ | ၆၇,၃၈၄ |
| စုစုပေါင်း ထည့်ဝင်ရင်းနှီးငွေ | - ၂,၃၃၂ | ၇၇. ၆၆ | ၇၈,၄၃၈ |

(မှတ်ချက် ။ ။ 1 USD = 980 Ks)

(ခ) နိုင်ငံခြားမှ တင်သွင်းရန်လိုအပ်သည့်

(၁) စက်ပစ္စည်း ကိရိယာများ - (နောက်ဆက်တွဲ -၆(က)မှ (င) ထိ)

(၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူ ပစ္စည်းများတန်ဖိုး -

(ဂ) တည်ဆောက်မှုကာလ - ၂ နှစ်

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ -

(င) တည်ဆောက်မှုစတင်မည့်အချိန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်၏ခွင့်ပြုမိန့် ရရှိသည့် အချိန်မှစတင်၍တည်ဆောက်ပါမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ

(က) လုပ်ငန်းအမျိုးအစား - ဆိပ်ခံတံတား တည်ဆောက် ၍ အထွေထွေကုန် ပစ္စည်း နှင့် ကုန်သေတ္တာ သင်္ဘောများ ဆိုက်ကပ်၍ ကုန်တင်ကုန်ချ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်း။

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ ရန်ကုန်တိုင်း ဒေသကြီး၊ ဆူးလေဆိပ်ခံ တံတား အမှတ်(၁) (၂) (၃) နှင့် (၄)

(ဂ) ဆောက်ရွက်ပုံနည်းစနစ် -

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် -

| အမျိုးအမည် | အရေအတွက် |
|---|---|
| ၁။ ဒီဇယ်ဆီ | - ၃၈၂၈၆၆ ဂါလံ |
| ၂။ချောဆီ | |
| (က) Engine Oil | -3500 gal/year |
| (ခ) Gear Oil | - 2000 gal/year |
| (ဂ) Hydrawlic oil | - 2000 gal/year |
| (ဃ) Transmission oil | - 2000 gal/year |
| (င) Multi purpose grease | - 5000 gal/year |

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

၁။ လျှပ်စစ်ဓါတ်အား - ၁၈. ၇ ကီလိုဝပ် နာရီသန်းပေါင်း

၂။ ဓါတ်ဆီ၊ ဒီဇယ် အင်ဂျင်စက်အင်အား - ၂၇၆၀ ကီလိုဝပ်

၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အင်အား -

၄။ သဘာဝဓါတ်ငွေ့သုံးအင်အား -

၅။ ပေးပို့သည့်အခြားအား
(ရေအား၊ လေအား စသည်များ)

(စ) နှစ်စဉ်ရေလိုအပ်ချက်
(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်)

၁။ တစ်နေ့ရေလိုအပ်ချက် - ၃၀၀၀ ဂါလံ

၂။ တစ်နှစ်ရေလိုအပ်ချက် -

(ဆ) နှစ်စဉ်လုပ်ငန်းပစ္စည်း၊ ကုန်ကြမ်းလိုအပ်ချက်

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း | | | |
| (၁) ------------- | ---------- | -------------- | -------------------- |
| (၂) ------------- | ---------- | -------------- | -------------------- |
| ၂။ အထောက်အကူကုန်ကြမ်း | | | |
| (၁) ------------- | ---------- | -------------- | -------------------- |
| (၂) ------------- | ---------- | -------------- | -------------------- |
| ၃။ ဓါတ်ဆီသုံး၊ ဓါတ်ငွေ့များ | | | |
| (၁) ------------- | ---------- | -------------- | -------------------- |
| (၂) ------------- | ---------- | -------------- | -------------------- |

(ဇ) အဆောက်အအုံလိုအပ်ချက် -

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း - ၁၅. ၄၉၆ ဧက( ၆၂၇၁၂. ၃၁ စတုရန်းမီတာ)

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း၊
ဆောင်ရွက်မည့်ဝန်ဆောင်မှု - ဆိပ်ကမ်းဝန်ဆောင်မှု

(ဎ) ရောင်းချမည့်စနစ် -

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု၊ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

(က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့်ကျပ်ငွေ -

(ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေပမာဏ -

(ဂ) ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ -

(ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း၊ ဝန်ဆောင်မှုတန်ဖိုးပမာဏ -

(င) နှစ်စဉ် ပြည်တွင်း၌ရောင်းချမည့် ကုန်ပစ္စည်း ဝန်ဆောင်မှုတန်ဖိုးပမာဏ - နောက်ဆက်တွဲ -၈

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်း - နောက်ဆက်တွဲ ၇

(ခ) နိုင်ငံခြားမှ လိုအပ်မည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ -

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ

| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | နှစ်စဉ် ဝင်ငွေရရှိမှု | - | နောက်ဆက်တွဲ - ၈ |
| (ခ) | နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် | - | နောက်ဆက်တွဲ - ၉ |
| (ဂ) | နှစ်စဉ် အသားတင်အမြတ် | - | နောက်ဆက်တွဲ - ၉ |
| (ဃ) | နှစ်စဉ်အလိုက် ရင်းနှီးမြှုပ်နှံမှု | - | နောက်ဆက်တွဲ - ၃ |
| (င) | နှစ်စဉ်အလိုက် ချေးငွေပြန်ဆပ်မှု | - | |
| (စ) | အခြားအကျိုးအမြတ်များ | - | |
| (ဆ) | အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမှု | - | နောက်ဆက်တွဲ - ၇ |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့်စပ်လျဉ်းသည့် အထောက်အထားများ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စအတွက်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ စာရင်းဇယားနှင့် အထောက်အထားများ

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း

လေးစားစွာဖြင့်

လက်မှတ် ။

အမည် ။ ဦးကျော်မြင့်

ရာထူး ။ အဆိုပြု ဒါရိုက်တာ

Myanmar Sule Terminal Limited

Schedule index for Import & Local purchase

| Item | Description | Schedule No | Kyats | US$ | Equivalent US$ | Total (US$) |
|---|---|---|---|---|---|---|
| **1** | **MPA Building** | | | 60,000,000 | | **60,000,000** |
| **2** | **Civil** | | | | | |
| | Civil - Import | 6-A | | 5,960,644 | | 5,960,644 |
| | Civil - Local | 5-A | 1,873,653,040 | | 1,911,891 | 1,911,891 |
| | Design, supervision & Labor | | | 865,979 | | 865,979 |
| | | | | | | **8,738,514** |
| **3** | **Mechanical** | | | | | |
| | Import | 6-B | | 438,776 | | 438,776 |
| | Local | 5-B | 318,659,337 | | 325,163 | 325,163 |
| | Design, supervision & Labor | | | 22,918 | | 22,918 |
| | | | | | | **786,856** |
| **4** | **Electrical** | | | | | |
| | Import | 6-D | | 1,408,323 | | 1,408,323 |
| | Local | 5-C | 139,964,420 | | 142,821 | 142,821 |
| | Design, supervision & Labor | | | 62,045 | | 62,045 |
| | | | | | | **1,613,188** |
| | **Total Civil cost - Year 1 (2+3+4)** | | | | | **11,138,559** |
| | | | | | | |
| **5** | **Office & Yard equipment-** Year1 | 6-C | | 2,900,000 | | **2,900,000** |
| | | | | | | |
| **6** | **Opearting equipment -** Year 2 | 6-E | | 6,000,000 | | **6,000,000** |
| | | | | | | |
| | **Total** | | **2,332,276,797** | **77,658,685** | **2,379,874** | **80,038,559** |

Myanmar Sule Terminal Limited

Imported Material List

| Item | Description | Schedule No | Kyats | US$ | Equivalent US$ | Total (US$) |
|---|---|---|---|---|---|---|
| | | | | | | - |
| 1 | Civil | | | | | |
| | Civil - Import | 6-A | | 5,960,644 | | 5,960,644 |
| | | | | | | |
| 2 | Mechanical | | | | | |
| | Import | 6-B | | 438,776 | | 438,776 |
| 3 | Electrical | | | | | |
| | Import | 6-D | | 1,408,323 | | 1,408,323 |
| | Total Civil cost - Year 1 (2+3+4) | | | | | 7,807,742 |
| | | | | | | |
| 5 | Office & Yard equipment- Year1 | 6-C | | 2,900,000 | | 2,900,000 |
| | | | | | | |
| 6 | Opearting equipment - Year 2 | 6-E | | 6,000,000 | | 6,000,000 |
| | | | | | | |
| | **Imported Material Cost** | | | | | **16,707,742** |
| | | | | | | |
| | **Design, Supervision & Lobar Cost** | | | | | **950,942** |
| | **Total** | | | | | **17,658,684** |

Contents


| Sr No | Description | Remark |
|---|---|---|
| 1 | List of Shareholders | Exhibit 1 |
| 2 | List of Directors | Exhibit 2 |
| 3 | Yearly Investment | Exhibit 3 |
| 4 | Depreciation | Exhibit 4 |
| 5 | List of Construction, Electrical & Mechanical Equipment-local purchase | Exhibit 5 |
| 6 | List of Construction ,Electrical & Mechnical equipment - To be Imported | Exhibit 6 |
| 7 | List of Personnel Requirement | Exhibit 7 |
| 8 | Service to be rendered | Exhibit 8 |
| 9 | Income statement | Exhibit 9 |
| 10 | Cash Flow statement | Exhibit 10 |
| 11 | Recoupment Period | Exhibit 11 |
| 12 | Internal Rate of Return | Exhibit 12 |

**Myanmar Sule Terminal Limited**

**List of Shareholders**

**Exhibit - 1**

| Sr.No. | Name | Citizen | NRC No | percentage | Address |
|---|---|---|---|---|---|
| 1 | **Myanmar Port Authority** | | | **74.963%** | |
| | Represented By: | | | | |
| | U Kyaw Myint | Myanmar | 12/MaBaNa (N) 006176 | | No.4(E) Bawdi Avenue Road, Bahan Township, Yangon |
| | U Ni Aung | Myanmar | 10/MaLaNa(N) 019534 | | No.32/36, Baho Road, Dagon Township, Yangon |
| | U Than Naing Oo | Myanmar | 1/MaKaNa(N) 051816 | | No.10, Oo Yin Road, Kamaryout Township, Yangon |
| | U Mya Than | Myanmar | 12/OuKaKaTa(N) 131002 | | No.14, Oo Yin Road, Kamaryout Township, Yangon |
| | | | | | |
| **2** | **Sein Kuang Yadanar Trading Co.,Ltd** | | | **25.037%** | |
| | Represented By: | | | | |
| | U Soe Tint | Myanmar | 1/MaKaTa(N) 040970 | | No.42-B, 4th Floor, New University Avenue Road, Bahan Township, Yangon. |
| | U Htin Kyaw | Myanmar | 12/MaGaTa(N) 085150 | | No.(101/Ka), Kyun Shwe Myaing(1) Street, Su Paung Housing Ward,Thingunkyun Township, Yangon |
| | U Tin Maung Win | Myanmar | 12/BaHaNa(N) 045278 | | No(22) Bawdi Yeitha Street, Shwethaunggyar (2) Ward, Bahan Township, Yangon |
| | | | | | |

**Myanmar Sule Terminal Limited**

## List of Directors

**Exhibit -2**

| Sr.No. | Name | Citizen | NRC No | Position | Address |
|---|---|---|---|---|---|
| **1** | U Kyaw Myint | Myanmar | 12/MaBaNa (N) 006176 | Chairman | No.4(E) Bawdi Avenue Road, Bahan Township, Yangon |
| | U Ni Aung | Myanmar | 10/MaLaNa(N) 019534 | Director | No.32/36, Baho Road, Dagon Township, Yangon |
| | U Than Naing Oo | Myanmar | 1/MaKaNa(N) 051816 | Director | No.10, Oo Yin Road, Kamaryout Township, Yangon |
| | U Mya Than | Myanmar | 12/OuKaKaTa(N) 131002 | Director | No.14, Oo Yin Road, Kamaryout Township, Yangon |
| | | | | | |
| **2** | U Soe Tint | Myanmar | 1/MaKaTa(N) 040970 | Director | No.42-B, 4th Floor, New University Avenue Road, Bahan Township, Yangon. |
| | U Htin Kyaw | Myanmar | 12/MaGaTa(N) 085150 | Director | No.(101/Ka), Kyun Shwe Myaing(1) Street, Su Paung Housing Ward,Thingunkyun Township, Yangon |
| | U Tin Maung Win | Myanmar | 12/BaHaNa(N) 045278 | Director | No(22) Bawdi Yeitha Street, Shwethaunggyar (2) Ward, Bahan Township, Yangon |
| | | | | | |

## Myanmar Sule Terminal Limited

### Investment Programm

Exhibit -3
USD In Thousand

| SR. NO. | DESCRIPTION | Year 1 | Year 2 | Total |
|---|---|---|---|---|
| | | US Dollar | US Dollar | |
| | | | | |
| 1 | Opearting equipment | | 6,000 | 6,000 |
| 2 | Office & Yard equipment | 2,900 | | 2,900 |
| 3 | Civil | 11,139 | | 11,139 |
| 4 | MPA -Building | 60,000 | | 60,000 |
| | | | | |
| | | | | |
| | | | | |
| | TOTAL ASSETS | 74,039 | 6,000 | 80,039 |

**Myanmar Sule Terminal Limited**

**DEPRECIATION SCHEDULE**

**Exhibit -4**

**US$'000**

| SR NO | Start year | DESCRIPTION | | Origianal value | DEP RATE | DEPRECIATION FOR THE YEAR |
|---|---|---|---|---|---|---|
| **1** | Year 1 | MPA- Building | | 60,000.00 | 3.33% | 2,000.00 |
| | | | | | | |
| 2 | Year 1 | Civil Works | | 11,138.56 | 10% | 1,113.86 |
| | | | | | | |
| 3 | Year 1 | **Office & Yard Equipment** | | | | |
| | | CCTV System | | 100.00 | 14% | 14.29 |
| | | Lighting Masts | | 100.00 | 14% | 14.29 |
| | | Office Equipment | | 100.00 | 14% | 14.29 |
| | | Weightbridge | | 100.00 | 14% | 14.29 |
| | | X-Ray Scanner | | 2,500.00 | 10% | 250.00 |
| | | | | | | |
| 4 | Year 2 | Operating equipment | | 6,000.00 | 10% | 600.00 |
| | | | | | | |
| | | | | **80,038.56** | | |

Myanmar Sule Terminal Limited
Civil ( To be purchased in Local) - Year 1

**Exhibit -5 A**

| Item | Description | Unit | Qty | Price(Ks) | Total (Ks) |
|---|---|---|---|---|---|
| 1 | 1" Black Screw | Box | 12 | 2,500 | 30,000 |
| 2 | 4"x4" Ø Myaw Post (15' Length) | Nos | 4,450 | 9,900 | 44,055,000 |
| 3 | 5 Ply Wood | Sht | 1,077 | 12,400 | 13,354,800 |
| 4 | 5"x2" Pkd chowket | R-ft | 63 | 3,000 | 189,000 |
| 5 | 5"x2" Pkd chowket polish work(M+L) | R-ft | 63 | 800 | 50,400 |
| 6 | 5-ply wood (8'x4') | No | 446 | 12,000 | 5,352,000 |
| 7 | Aluminium Window (M+L) | Sq-ft | 255 | 6,000 | 1,530,000 |
| 8 | Asphalt Sealer | Gals | 297 | 8,000 | 2,376,000 |
| 9 | Bamboo | Nos | 261 | 1,100 | 287,100 |
| 10 | Binding Wire | Viss | 144 | 3,000 | 432,000 |
| 11 | Binding Wire | Lb | 39,045 | 3,500 | 136,657,500 |
| 12 | Blade Wire (Galvinize) | Rft | 3,184 | 3,500 | 11,144,000 |
| 13 | Bracket | Nos | 21 | 180 | 3,780 |
| 14 | Brick | Nos | 432,072 | 120 | 51,848,640 |
| 15 | Butt hinge | Nos | 12 | 7,500 | 90,000 |
| 16 | C-channel | Nos | 149 | 900 | 134,100 |
| 17 | Coal tar | Gal | 1 | 5,500 | 5,500 |
| 18 | Coinyan | Viss | 27 | 500 | 13,500 |
| 19 | Concrete ( Grade - 35 ) | M3 | 2,245 | 92,000 | 206,540,000 |
| 20 | Door Leaf with Timber Polish work (M+L) | Sq-ft | 57 | 1,500 | 85,500 |
| 21 | Door Leaf with Timber(Teak) | Sq-ft | 57 | 14,000 | 798,000 |
| 22 | Door Lock | Nos | 3 | 12,000 | 36,000 |
| 23 | Fuel | Gals | 7,360 | 4,000 | 29,440,000 |
| 24 | Gate Door | Sq:ft | 800 | 8,000 | 6,400,000 |
| 25 | Gravel | Sud | 423 | 65,000 | 27,495,000 |
| 26 | Gypusm Board (8'x4') | Sheet | 46 | 6,500 | 299,000 |
| 27 | Handle | Nos | 6 | 15,000 | 90,000 |
| 28 | Hardcore | Suds | 7,180 | 70,000 | 502,600,000 |
| 29 | Iron Grill work (M+L) | Sq:ft | 6,028 | 3,500 | 21,098,000 |
| 30 | Joint tape | Nos | 58 | 3,750 | 217,500 |
| 31 | Jungle Wood | Tons | 52 | 555,000 | 28,860,000 |
| 32 | Nail | Viss | 37 | 2,000 | 74,000 |
| 33 | Panda Glue | Gals | 64 | 3,800 | 243,200 |
| 34 | Ready Made Cement | Bags | 27 | 9,500 | 256,500 |
| 35 | Ready Made PVC Door (2'-6"x6'-0") | Nos | 3 | 30,000 | 90,000 |
| 36 | Ready Mixed Concrete (Grade-25) | M3 | 13 | 78,000 | 1,014,000 |
| 37 | River Sand | Suds | 12,006 | 14,000 | 168,084,000 |
| 38 | River Shingle | Suds | 6,200 | 68,000 | 421,600,000 |
| 39 | Roller | No | 46 | 3,500 | 161,000 |
| 40 | Roller Shutter | Sqft | 317 | 3,800 | 1,204,600 |
| 41 | Roof Area with Steel Frame (M+L) | Sqft | 706 | 4,000 | 2,824,000 |
| 42 | Sand (For Filling) | Sud | 6,627 | 14,500 | 96,091,500 |
| 43 | Sand Paper | Doz | 129 | 3,000 | 387,000 |
| 44 | Sealer | Litres | 1 | 8,000 | 8,000 |
| 45 | Sealer | Lit | 545 | 33,500 | 18,257,500 |
| 46 | Ready Mixed Concrete (Grade-20) | M3 | 216 | 77,000 | 16,632,000 |
| 47 | Ready Mixed Concrete (Grade-30) | M3 | 109 | 85,050 | 9,270,450 |
| 48 | Stair With Steel Hand Rail (M+L) | Sq-ft | 30 | 7,000 | 210,000 |
| 49 | Thinner | Litres | 137 | 3,200 | 438,400 |

| Item | Description | Unit | Qty | Price(Ks) | Total (Ks) |
|---|---|---|---|---|---|
| 50 | Thinplast Putty ( 25 Kg ) | Bags | 253 | 11,000 | 2,783,000 |
| 51 | Timber Scantling (J/ wood) | Ton | 59 | 600,000 | 35,400,000 |
| 52 | Timber Softwood | Ton | 5 | 580,000 | 2,900,000 |
| 53 | Tower Bolt 6" | Nos | 6 | 2,500 | 15,000 |
| 54 | Wall angle | Nos | 58 | 450 | 26,100 |
| 55 | Wall Tile (8"x10") | Sheet | 503 | 300 | 150,900 |
| 56 | White cement | Kg | 30 | 1,700 | 51,000 |
| 57 | Wire Nail | Lb | 2,239 | 500 | 1,119,500 |
| 58 | X'met | R-ft | 3,082 | 35 | 107,870 |
| 59 | Empty Cement Bag | Bag | 27,412 | 100 | 2,741,200 |
| | | | | | 1,873,653,040 |

Exchange Rate US$ to Kyat 980

Equivalent US$ 1,911,891

Myanmar Sule Terminal Limited

Mechanical ( To be purchased in Local)- Year 1

**Exhibit -5 B**

| Item | Description | Unit | Qty | Price | Total (Ks) |
|---|---|---|---|---|---|
| **A** | Custom Office (2-Storeyed Building) | | | | |
| | **Plumbing & Sanitation Work** | | | | |
| (i) | Internal (Plumbing & Sanitary Work) | Lot | 1 | 75,000,000 | 75,000,000 |
| (ii) | Other Building (Internal Plumbing & Sani | Lot | 1 | 30,000,000 | 30,000,000 |
| | **Utilities** | | | | |
| (i) | External Water Supply & Sanitary Work | Lot | 1 | 3,000,000 | 3,000,000 |
| (ii) | Overhead Tank (2400 Gals) and Water Pu | Lot | 1 | 6,409,337 | 6,409,337 |
| (iii) | Drainage System | Ft | 6,450 | 25,000 | 161,250,000 |
| (iv) | Pump House & MSB Room (24' x 12' x10' | Lot | 1 | 10,000,000 | 10,000,000 |
| (v) | Ground Tank (20' x 12' x 8') | Lot | 1 | 15,000,000 | 15,000,000 |
| (vi) | Septic Tank | Lot | 1 | 3,000,000 | 3,000,000 |
| (vii) | Other Accessories | Lot | 1 | 15,000,000 | 15,000,000 |
| | **Total** | | **6,458** | | **318,659,337** |

Exchange Rate US$ to Kyat 980

Equivalent US$ 325,163

Myanmar Sule Terminal Limited
Electrical ( To be purchased in Local) - Year 1

**Exhibit -5 C**

| Sr.No | Description | Unit | Qty | Price (Ks) | Amount |
|---|---|---|---|---|---|
| **I** | **Switch And Switch Socket** | | | | |
| 1 | 1 Gang 1 Way | No | 30 | 1,800 | 54,000 |
| 2 | 2 Gang 1 Way | No | 21 | 2,800 | 58,800 |
| 3 | 1 Gang 2 Way | No | 18 | 2,300 | 41,400 |
| 4 | 2-Pin 10 A Switch Socket Outlet | No | 27 | 4,000 | 108,000 |
| 5 | 3-Pin 13 A Switch Socket Outlet | No | 49 | 3,450 | 169,050 |
| 6 | 3-Pin 15 A Switch Socket Outlet | No | 5 | 5,400 | 27,000 |
| 7 | 32A 4P Isolator | No | 30 | 39,900 | 1,197,000 |
| | | | | | |
| **II** | **PVC Conduit Pipe And Accessories** | | | | |
| 1 | Ø 20 mm PVC Conduit Pipe (10 Ft) | No | 8590 | 850 | 7,301,500 |
| 2 | Ø 20 mm One Way Junction | No | 750 | 200 | 150,000 |
| 3 | Ø 20 mm Two Way Junction (90˙) | No | 2250 | 200 | 450,000 |
| 4 | Ø 20 mm Two Way Junction (180˙) | No | 2250 | 200 | 450,000 |
| 5 | Ø 20 mm Three Way Junction | No | 2250 | 200 | 450,000 |
| 6 | Ø 20 mm Four Way Junction | No | 2250 | 200 | 450,000 |
| 7 | Ø 20 mm Inspection (90˙) Elbow | No | 1725 | 200 | 345,000 |
| 8 | Ø 20 mm Socket | No | 17180 | 85 | 1,460,300 |
| 9 | Ø 20 mm Saddle | No | 25770 | 120 | 3,092,400 |
| 10 | Ø 20 mm Adaptor | No | 138 | 295 | 40,710 |
| 11 | Ø 20 mm Lid Cover | No | 9750 | 85 | 828,750 |
| 12 | Ø 20 mm Done Cover | No | 1744 | 290 | 505,760 |
| 13 | Ø 20 mm Flexible Pipe (50M / 1Coil) | Coil | 182 | 7,900 | 1,437,800 |
| 14 | Ø 25 mm PVC Conduit Pipe (10 Ft) | No | 2330 | 1,245 | 2,900,850 |
| 15 | Ø 25 mm One Way Junction | No | 150 | 250 | 37,500 |
| 16 | Ø 25 mm Two Way Junction (90˙) | No | 900 | 250 | 225,000 |
| 17 | Ø 25 mm Two Way Junction (180˙) | No | 450 | 250 | 112,500 |
| 18 | Ø 25 mm Three Way Junction | No | 1200 | 250 | 300,000 |
| 19 | Ø 25 mm Four Way Junction | No | 300 | 250 | 75,000 |
| 20 | Ø 25 mm Inspection (90˙) Elbow | No | 11650 | 250 | 2,912,500 |
| 21 | Ø 25 mm Socket | No | 4660 | 100 | 466,000 |
| 22 | Ø 25 mm Saddle | No | 6990 | 130 | 908,700 |
| 23 | Ø 25 mm Adaptor | No | 300 | 340 | 102,000 |
| 24 | Ø 25 mm Lid Cover | No | 3000 | 85 | 255,000 |
| 25 | Ø 25 mm Done Cover | No | 50 | 450 | 22,500 |
| 26 | Ø 25 mm Flexible Pipe (50M / 1Coil) | Coil | 190 | 13,000 | 2,470,000 |
| 27 | 2" x 2" PVC Trunking | No | 200 | 1,580 | 316,000 |
| 28 | PVC Wall Plug | Pkt | 30 | 850 | 25,500 |
| 29 | Black Screw | Box | 175 | 2,800 | 490,000 |
| 30 | Base Box PVC | No | 200 | 200 | 40,000 |
| 31 | 6" Square Box | No | 100 | 2,250 | 225,000 |
| 32 | Wire Tape | Roll | 575 | 1,500 | 862,500 |
| 33 | Compound Tape | Coil | 287 | 9,500 | 2,726,500 |
| 34 | Connector | Pkt | 500 | 350 | 175,000 |
| 35 | Cable Tie,Cable Lug and Other Accessories | Lot | 1 | 500,000 | 500,000 |
| **III** | **Metal Trunking with Accessories** | | | | - |
| 1 | 100 x 50 mm Metal Trunking (Thickness-1mm²) | No | 50 | 31,280 | 1,564,000 |
| 2 | 50 x 50 mm Metal Trunking (Thickness-1mm²) | No | 350 | 22,239 | 7,783,650 |
| 3 | 100 x50 mm 90˚ Elbow (Thickness-1mm²) | No | 20 | 11,000 | 220,000 |

| Item | Description | Unit | Qty | Price(Ks) | Total (Ks) |
|---|---|---|---|---|---|
| 4 | 50 x50 mm 90˚ Elbow (Thickness-1mm²) | No | 50 | 7,410 | 370,500 |
| 5 | 100 x 50 mm Tee (Thickness-1mm²) | No | 20 | 14,000 | 280,000 |
| 6 | 50 x 50 mm Tee (Thickness-1mm²) | No | 50 | 12,000 | 600,000 |
| 7 | Long Thread (6 Ft) | No | 2000 | 3,600 | 7,200,000 |
| 8 | 1" Hollow MS Pipe (19'6" Length) | No | 70 | 6,300 | 441,000 |
| 9 | Ø ⅜" GI Wall Plug | No | 4000 | 150 | 600,000 |
| 10 | Trunking with Accessories | Lot | 1 | 350,000 | 350,000 |
| **IV** | **External Pipe** | | | | - |
| 1 | 3" PVC Pipe (CL-8.5) | No | 300 | 21,303 | 6,390,900 |
| 2 | 3" PVC 90 Elbow (CL-8.5) | No | 100 | 910 | 91,000 |
| 3 | 3" PVC 45 Elbow (CL-8.5) | No | 100 | 745 | 74,500 |
| 4 | 3" PVC Saddle (CL-8.5) | No | 300 | 600 | 180,000 |
| 5 | 3" PVC Socket (CL-8.5) | No | 450 | 603 | 271,350 |
| 6 | 11/2" PVC Pipe (CL-8.5) | No | 5000 | 6,436 | 32,180,000 |
| 7 | 11/2" PVC 90 Elbow (CL-8.5) | No | 1200 | 180 | 216,000 |
| 8 | 11/2" PVC 45 Elbow (CL-8.5) | No | 1200 | 175 | 210,000 |
| 9 | 11/2" PVC Saddle (CL-8.5) | No | 7500 | 300 | 2,250,000 |
| 10 | 11/2" PVC Socket (CL-8.5) | No | 7500 | 145 | 1,087,500 |
| 11 | 2" GI Pipe | No | 120 | 23,000 | 2,760,000 |
| 12 | 2" GI Socket | No | 90 | 850 | 76,500 |
| **V** | **DB with Accessories** | Set | 5 | 1,200,000 | 6,000,000 |
| **VI** | **DB with Accessories (For Aircon)** | Set | 1 | 3,942,000 | 3,942,000 |
| **VII** | **Earthing System** | Lot | 5 | 900,000 | 4,500,000 |
| **VIII** | **Lightning System** | Lot | 1 | 7,200,000 | 7,200,000 |
| **IX** | **Draw Pit (Metal Cover)** | No | 48 | 70,000 | 3,360,000 |
| **X** | **Wall Hacking & Re-plastering Work** | Rft | 1500 | - | - |
| **XI** | **Earth Excavation & Back Filling Work** | Cu-ft | 55360 | - | - |
| **XII** | **Hire Crane** | Lot | 1 | 10,000,000 | 10,000,000 |
| **XII** | **Other Accessories** | Lot | 1 | 5,000,000 | 5,000,000 |
| | **Total** | | **196,640** | | **139,964,420** |
| | Exchange Rate US$ to Kyat | | | | 980 |
| | Equivalent US$ | | | | 142,820.84 |

| | US$ |
|---|---|
| Civil - Local purchase | 1,911,890.86 |
| Civil - Import | 5,960,644.38 |
| Civil - Mechanical - local | 325,162.59 |
| Civil - Mechanical - Import | 438,775.51 |
| Civil - Electrical - Local | 142,820.84 |
| Civil - Electrical - Import | 1,408,322.52 |
| Total Material Cost | **10,187,616.69** |
| Design/ Supervision and lobor | **950,942.14** |
| **Total Civil Work - Year 1** | **11,138,558.84** |

| | | | | | |
|---|---|---|---|---|---|
| | | ကိုယ်စားပြုသူ<br>ဦးသန်းနိုင်ဦး<br>အမှတ်(၁၀)၊ ဥယျာဉ်လမ်း၊<br>ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br>(ဒုတိယအထွေထွေမန်နေဂျာ)<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | မြန်မာ<br>၁/မကန(နိုင်)<br>၀၅၁၈၁၆ | | |
| | ၄။ | ပို့ဆောင်ရေးဝန်ကြီးဌာန<br>မြန်မာ့ဆိပ်ကမ်းအာဏာပိုင်<br>ကိုယ်စားပြုသူ<br>ဦးမြသန်း<br>အမှတ်(၁၄)၊ ဥယျာဉ်လမ်း၊<br>ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။<br>(မြို့ပြအင်ဂျင်နီယာချုပ်) | မြန်မာ<br>၁၂/ဥကတ(နိုင်)<br>၁၃၁၀၀၂ | | |
| ၂။ | | "ခ" အစုရှယ်ယာ | | | |
| | ၁။ | စိန်ကောင်းရတနာ ကုမ္ပဏီလီမိတက်<br>ကိုယ်စားပြုသူ<br>ဦးထင်ကျော်<br>အမှတ်(၁၀၁/က)၊ ကျွန်းရွှေမြိုင်(၁)လမ်း၊<br>စုပေါင်းအိမ်ယာရပ်ကွက်၊ သဃ်္ဃန်းကျွန်း<br>မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁၂/မဂတ(နိုင်)<br>၀၈၉၁၅၀ | ၆,၈၉၀,၃၈၀<br>စု | |
| | ၂။ | စိန်ကောင်းရတနာ ကုမ္ပဏီလီမိတက်<br>ကိုယ်စားပြုသူ<br>ဦးတင်မောင်ဝင်း<br>အမှတ်(၂၂)၊ ဗောဓိရိပ်သာလမ်း၊<br>ရွှေတောင်ကြား(၂)ရပ်ကွက်၊<br>ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁၂/ဗဟန(နိုင်)<br>၀၄၅၂၇၈ | | |

| | | | | | |
|---|---|---|---|---|---|
| | ၃။ | စိန်ကောင်းရတနာ ကုမ္ပဏီလီမိတက်<br>ကိုယ်စားပြုသူ<br>ဦးစိုးတင့်<br>အမှတ်(၄၂-ဘီ)၊ (၄)လွှာ၊ တက္ကသိုလ်<br>ရိပ်သာလမ်းသစ်၊ ဆရာစံရပ်ကွက်၊<br>ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁/မကတ(နိုင်)<br>၀၄၀၉၇၀ | | |

U Sein Win
Certified Public Accountant
C.P.A Registration. No. 495

ရန်ကုန်မြို့၊ နေ့စွဲ၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ၊ ၃၀ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

အတွင်းရေး

၁၉၅၀ပြည့်နှစ်၊ အထူးကုမ္ပဏီအက်ဥပဒေ

နှင့်

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော

အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

"မြန်မာဆူးလေ ဆိပ်ကမ်း လီမိတက်"

၏

သင်းဖွဲ့စည်းမျဉ်းများ

* * * * * * * * * * * * * *

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့်စည်းမျဉ်းများမှအပ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နှင့် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ(က)ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

အများနှင့်မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသောဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မတည်ရင်းနှီးငွေ နှင့် အစုရှယ်ယာ

၃။ (က) ကုမ္ပဏီ၏သတ်မှတ်မတည်ငွေရင်းမှာ ကျပ် ၁၄၇,၀၀၀,၀၀၀,၀၀၀/- (ကျပ်သန်းပေါင်းတစ်သိန်းလေးသောင်းခုနစ်ထောင်တိတိ)ဖြစ်၍ ငွေကျပ် ၁၀,၀၀၀/- (ကျပ်တစ်သောင်းတိတိ) တန် အစုရှယ်ယာပေါင်း (၁၄,၇၀၀,၀၀၀) ခွဲထားပါသည်။ ယင်းခွင့်ပြုမတည်ငွေရင်းအနက် ၄၀ ရာခိုင်နှုန်း (၄၀%)အစုရှယ်ယာကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၊ ပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်အနေဖြင့် ထည့်ဝင်မည်ဖြစ်ပါသည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သောပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေတစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချထားခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံအထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံ တောင်းဆိုသည့်အကြိမ်တိုင်းအတွက် ဒါရိုက်တာများကသတ်မှတ်သည့်ပုဂ္ဂိုလ်များထံ သတ်မှတ်သည့် အချိန်နှင့်နေရာတွင် ပေးသွင်းစေရန်တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာအဖွဲ့က သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ်အစည်းအဝေးက တစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် (၇)ဦးထက်မနည်း၊ (၁၅)ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်–

| | | |
|---|---|---|
| (၁) | ဦးကျော်မြင့်၊ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | ဥက္ကဋ္ဌ |
| (၂) | ဦးနီအောင်၊အထွေထွေမန်နေဂျာ၊မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | အဖွဲ့ဝင် |
| (၃) | ဦးသန်းနိုင်ဦး၊ဒုတိယအထွေထွေမန်နေဂျာ၊မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | အဖွဲ့ဝင် |
| (၄) | ဦးမြသန်း၊မြို့ပြအင်ဂျင်နီယာချုပ်မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | အဖွဲ့ဝင် |
| (၅) | ဦးစိုးတင့်၊ဒါရိုက်တာ၊ စိန်ကောင်းရတနာကုမ္ပဏီလီမိတက် | အဖွဲ့ဝင် |
| (၆) | ဦးထင်ကျော်၊ဒါရိုက်တာ၊စိန်ကောင်းရတနာကုမ္ပဏီလီမိတက် | အဖွဲ့ဝင် |
| (၇) | ဦးတင်မောင်ဝင်း၊ဒါရိုက်တာ၊စိန်ကောင်းရတနာကုမ္ပဏီလီမိတက် | အဖွဲ့ဝင် |

၈။ ဒါရိုက်တာအဖွဲ့ဥက္ကဋ္ဌ။ နိုင်ငံတော်ပိုင် "က"အစုရှယ်ယာများ ပိုင်ဆိုင်သူ၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် ကိုယ်စားပြုသော ဒါရိုက်တာများမှ ပုဂ္ဂိုလ်သာလျှင် ဥက္ကဋ္ဌ ဖြစ်ရမည်။

၉။ မန်နေဂျင်းဒါရိုက်တာခန့်ထားခြင်း။ ဒါရိုက်တာများသည် ၄င်းတို့အနက်တစ်ဦးကို မန်နေဂျင်း ဒါရိုက်တာအဖြစ် အချိန်အခါအလိုက်သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သောအာဏာများကို အသုံးပြုနိုင်သည်။

၁၀။ ဒါရိုက်တာများအတွက်ထောက်ပံ့ငွေ။ ဒါရိုက်တာများ၏ တာဝန်ယူခြင်းအတွက် အခကြေးငွေထောက်ပံ့ခြင်းကို ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးမှ အခါအားလျော်စွာသတ်မှတ်ပေးရမည်။

၁၁။ ဒါရိုက်တာတစ်ဦးဖြစ်ရန်ပိုင်ဆိုင်ရမည့်အစုရှယ်ယာများ။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၊ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ရွေးချယ်သော ဒါရိုက်တာတစ်ဦးသည် အရည်အချင်းပြည့်ရန် မည်သည့်အစုရှယ်ယာမျှ ပိုင်ဆိုင်ရန်မလို။

"ခ"အစုရှယ်ယာရှင် စိန်ကောင်းရတနာကုမ္ပဏီလီမိတက်ဘက်မှ ရွေးချယ်ထားသော ဒါရိုက်တာတစ်ဦးသည် အရည်အချင်းပြည့်ရန် မည်သည့်အစုရှယ်ယာမျှ ပိုင်ဆိုင်ရန်မလိုပါ။ ဒါရိုက်တာများသည် မြန်မာနိုင်ငံကုမ္ပဏီအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၂။ အစုရှယ်ယာများ လွှဲပြောင်းရန်တင်ပြချက်ကို မည်သည့်အကြောင်းပြချက်မျှမပေးဘဲ ဒါရိုက်တာအဖွဲ့သည်၎င်းတို့၏ ပြည့်စုံ၍ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ဆောင်ရွက်ချက်များ

၁၃။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည်ဟု ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံးဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာ(၅)ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်လာပါက မဲများရာဖြင့်ဆုံးဖြတ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၄။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေးခေါ်နိုင်သည်။

၁၅။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျခေါ်ယူကျင်းပသောအစည်းအဝေးက အတည်ပြုဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၆။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေအာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေငြာသည်။ အာဏာဆိုသည်မှာ–

(က) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများသတ်မှတ်၍ ကုမ္ပဏီက ရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း ၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(ခ) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေးငှားသောငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသောရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(ဂ) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက်အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသောအာမခံစာချုပ်များကိုထုတ်ပေးရန်၊ ထို့အပြင် အဆိုပါအစုရှယ်ယာများထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့်သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသပေးသွင်းပြီးသော အစုရှယ်ယာများအနေဖြင့်သော်လည်းကောင်း၊ သဘောတူညီသကဲ့သို့ထုတ်ဝေပေးရန်နှင့် အဆိုပါငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့်ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်ဆိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(ဃ) ဤကုမ္ပဏီနှင့်ပြုလုပ်ထားသောကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများပြီးစီးအောင် ဆောင်ရွက်ခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍သော်လည်းကောင်း၊ သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(င) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း အဆိုပါပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌

လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စများအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကို မဆို ကိစ္စရပ်များအားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(စ) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့်တွဲဖက်၍ မန်နေး ဂျင်းဒါရိုက်တာ၊ အထွေထွေမန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာ အဖြစ် ခန့်ထားရန်။

(ဆ) မည်သည့်အစုရှင်ထံမှမဆို ၎င်းတို့၏အစုရှယ်ယာများ အားလုံးကိုဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များ ဖြင့် လက်ခံရန်။

(ဇ) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန် နှင့် အဆိုပါ ယုံမှတ်အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆိုပြုလုပ်ရန်။

(ဈ) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံ ကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများ နှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန်အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(ည) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်း များကို ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(ဋ) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီ သို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများပြုလုပ်ခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(ဌ) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီများမဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ ကိုယ်စားဆောင်ရွက်ရန်။

(ဍ) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ဌပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော့ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စားမည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(ဎ) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလောအသုံးပြုရန် မလိုလားသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန် နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(ဏ) ဤကုမ္ပဏီ၏အကျိုးအတွက် ငွေကြေးစိုက်ထုတ်ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့်နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့်အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များ နှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(တ) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိ အကျဆောင်ရွက်ခဲ့သောလုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန် နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(ထ) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများ နှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(ဒ) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟုယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ်ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန် နှင့် ပြင်ဆင်ရန်အပြင် အဆိုပါ ဆောင်ရွက်ချက်စာချုပ်များ နှင့် ကိစ္စရပ်များကိုလည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(ခ) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက ကုမ္ပဏီ၏ စီးပွားရေး လုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်းများ၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

## အထွေထွေ အစည်းအဝေးကြီးများ

၁၇။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးနောက် တစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ်အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေး သည့် အချိန်နှင့်နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပ သည့် အထွေထွေအစည်းအဝေးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ်အစည်းအဝေးစတင်၍ လုပ်ငန်းအတွက်ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက် ရန် သတ်မှတ်သည့်အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်း အဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ၊ ဤတွင် အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့်မတည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ် ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များကိုယ်တိုင်တက် ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေဖြစ် သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့်ကိစ္စတွင်မူ ထိုနှစ်ဦး တည်းသည်ပင်လျှင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့်အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၈။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးသည့်အမြတ်ဝေစု ကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသောငွေပမာဏ ထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

(က)ဖက်စပ်ကုမ္ပဏီလီမိတတ်မှရရှိသည့် အကျိုးအမြတ်ကို "က" အစုရှယ်ယာ နှင့် "ခ" အစုရှယ်ယာရှင်တို့သည် (၆၀း၄၀)အချိုးအတိုင်း ခွဲဝေခံစားမည်။

(ခ)နောင်အခါတွင် ဖက်စပ်ကုမ္ပဏီလီမိတက်၏ ခွင့်ပြုမတည်ရင်းနှီးငွေထက်ကျော်လွန်ပြီး ဒါရိုက်တာဘုတ်အဖွဲ့သဘောတူညီချက်ဖြင့် ထည့်ဝင်ငွေအချိုးပြောင်းလဲသွားပါကအကျိုး အမြတ်ခွဲဝေမှုကိုလည်း ပြောင်းလဲသွားသည့်ရင်းနှီးငွေအချိုးအတိုင်း ခွဲဝေခံစားကြရန် သဘောတူကြပါသည်။ ဒါရိုက်တာအဖွဲ့ဝင်အချိုးလည်း ပြောင်းလဲနိုင်သည်။

## ရုံးဝန်ထမ်းများ

၁၉။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကိုဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား လုပ်ငန်းရုံး၏အထွေထွေမန်နေဂျာအဖြစ်ခန့်အပ်ရန် နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ် နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများ နှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ လုပ်ငန်းရုံးအထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏လုပ်ငန်း ထိရောက်စွာလုပ်ငန်းလည်ပတ်မှု အားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်းဒါရိုက်တာအား တာဝန်ခံ၍ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၂၀။ ဒါရိုက်တာများသည် သင့်လျော်သည့်ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသို၊ ထိန်းသိမ်းဆောင်ရွက်ရမည်-

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်း နှင့် စပ်လျဉ်းသည့်အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်း နှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့် နှင့် ပေးရန်တာဝန်များ။

၂၁။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသောလုပ်ငန်းရုံးများ သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟုထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၂။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏တာဝန်သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်းစည်းကမ်းများနှင့် လိုက်လျောညီထွေဖြစ်ရမည်။

## နို့တစ်စာ

၂၃။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင် လိပ်စာအတိုင်း စာတိုက်မှတဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်ပါသည်။

## တံဆိပ်

၂၄။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတပါး၊ ထို့အပြင် အနည်းဆုံးဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတပါး မည်သည့်အခါမျှမသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာကလက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၅။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိတာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများ နှင့် ကြွေးမြီးတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့် ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၆။ ကုမ္ပဏီ၏အထူးအထွေထွေအစည်းအဝေးဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့်စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

အစုရှယ်ယာရှင်များ လက်မှတ်ရေးထိုးရမည့်ပုံစံ

၁၁။ အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ် နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခု ဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာ နှင့် အလုပ်အကိုင် | နိုင်ငံသား နှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ အရေအတွက် | ထိုးမြဲလက်မှတ် |
|---|---|---|---|---|---|
| ၁။ | | "က" အစုရှယ်ယာ | | ၅,၈၈၀,၀၀၀ | |
| | ၁။ | ပို့ဆောင်ရေးဝန်ကြီးဌာန | | စု | |
| | | မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | | | |
| | | ကိုယ်စားပြုသူ | | | |
| | | ဦးကျော်မြင့် | မြန်မာ | | |
| | | အမှတ်(၄-အီး)၊ ဇောတိရိပ်သာလမ်း၊ | ၁၂/မတန(နိုင်) | | |
| | | ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ | ၀၀၆၁၇၆ | | |
| | | (ဦးဆောင်ညွှန်ကြားရေးမှူး) | | | |
| | | မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | | | |
| | ၂။ | ပို့ဆောင်ရေးဝန်ကြီးဌာန | | | |
| | | မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | | | |
| | | ကိုယ်စားပြုသူ | | | |
| | | ဦးနီအောင် | မြန်မာ | | |
| | | အမှတ်(၃၂/၃၆)၊ ဗဟိုလမ်း၊ | ၁၀/မလမ(နိုင်) | | |
| | | ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ | ၀၁၉၅၃၄ | | |
| | | (အထွေထွေမန်နေဂျာ) | | | |
| | | မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | | | |
| | ၃။ | ပို့ဆောင်ရေးဝန်ကြီးဌာန | | | |
| | | မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | | | |

| | | | | | |
|---|---|---|---|---|---|
| | | ကိုယ်စားပြုသူ | | | |
| | | ဦးသန်းနိုင်ဦး | မြန်မာ | | |
| | | အမှတ်(၁၀)၊ ဥယျာဉ်လမ်း၊ | ၁/မကန(နိုင်) | | |
| | | ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ | ၀၅၁၈၁၆ | | |
| | | (ဒုတိယအထွေထွေမန်နေဂျာ) | | | |
| | | မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | | | |
| | ၄။ | ပို့ဆောင်ရေးဝန်ကြီးဌာန | | | |
| | | မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | | | |
| | | ကိုယ်စားပြုသူ | | | |
| | | ဦးမြသန်း | မြန်မာ | | |
| | | အမှတ်(၁၄)၊ ဥယျာဉ်လမ်း၊ | ၁၂/ဥကတ(နိုင်) | | |
| | | ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ | ၁၃၁၀၀၂ | | |
| | | (မြို့ပြအင်ဂျင်နီယာချုပ်) | | | |
| ၂။ | | "ခ" အစုရှယ်ယာ | | | |
| | ၁။ | စိန်ကောင်းရတနာ ကုမ္ပဏီလီမိတက် | | ၆,၈၉၀,၃၈၀ | |
| | | ကိုယ်စားပြုသူ | | စု | |
| | | *ဦးထင်ကျော်* | မြန်မာ | | |
| | | အမှတ်(၁၀၁/က)၊ ကျွန်းရွှေမြိုင်(၁)လမ်း၊ | ၁၂/မဂတ(နိုင်) | | |
| | | စုပေါင်းအိမ်ယာရပ်ကွက်၊ သဃ်္ဃန်းကျွန်း | ၀၈၉၁၅၀ | | |
| | | မြို့နယ်၊ ရန်ကုန်မြို့။ | | | |
| | ၂။ | စိန်ကောင်းရတနာ ကုမ္ပဏီလီမိတက် | | | |
| | | ကိုယ်စားပြုသူ | | | |
| | | ဦးတင်မောင်ဝင်း | မြန်မာ | | |
| | | အမှတ်(၂၂)၊ ဗောဓိရိပ်သာလမ်း၊ | ၁၂/ဗဟန(နိုင်) | | |
| | | ရွှေတောင်ကြား(၂)ရပ်ကွက်၊ | ၀၄၅၂၇၈ | | |
| | | ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ | | | |

| | | | | | |
|---|---|---|---|---|---|
| | ၃။ | စိန်ကောင်းရတနာ ကုမ္ပဏီလီမိတက်<br>ကိုယ်စားပြုသူ<br>ဦးစိုးတင့်<br>အမှတ်(၄၂-ဘီ)၊ (၄)လွှာ၊ တက္ကသိုလ်<br>ရိပ်သာလမ်းသစ်၊ ဆရာစံရပ်ကွက်၊<br>ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁/မကတ(နိုင်)<br>၀၄၀၉၇၀ | | |

U Sein Win
Certified Public Accountant
C.P.A Registration. No. 495

ရန်ကုန်မြို့ ။ နေ့စွဲ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ၊ ၃၀ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

SPECIAL COMPANY ACT, 1950

&

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

Memorandum Of Association

Of

# MYANMAR SULE TERMINAL LIMITED

* * * * * * * * *

## Name of the Company

1. The name of the company is **"MYANMAR SULE TERMINAL LIMITED"**

2. The registered office of the Company will be situated in the Republic of the Union of Myanmar.

## Special Company

3. The Company will be incorporated as a "Special Company" under The Special Company Act, 1950 (1950 Act 54), the reason being ownership of forty percent (40%) of the shares of this Company by Myanma Port Authority, a State owned enterprise.

4. All the provisions under the Special Company Act, 1950 shall apply to the Company, and provisions in the Myanmar Companies Act, which has not been cancelled or prohibited either expressly or impliedly by the mentioned Special Company Act, 1950 or the Memorandum of Association and Articles of the Company shall also apply to the Company.

## Incorporation

5. The Company will be incorporated under The Myanmar Companies Act.

6. The Objective For Which The Company is established are-

(1) Trading of Agricultural and Farm Produces.

(2) Trading of Forest products and value-added wood-based products.

(3) Trading of Animal by-products and Animal Feed.

(4) Trading of Marine products.

(5) Trading of Fertilizer and insecticides.

(6) Trading of Chemicals and dyes.

(7) Trading of Factory utensils and raw material.

(8) Trading of Household goods.

(9) Trading of Personal goods.

(10) Trading of Construction materials and spares.

(11) Trading of Electrical and electronic products.

(12) Trading of Vehicles, Machinery and spares.

(13) Trading of Tools and implement.

(14) Trading of Medicines and medical equipment.

(15) Trading of Foodstuff and general merchandise.

(16) Trading of Textile and garment.

(17) Trading of Paper, stationery and photographic stores.

(18) Trading of Office equipment and educational supplies.

(19) Growing, producing, harvesting, preserving, packing, milling and manufacturing and farm products.

(20) Felling, extracting, (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber (excluding-teak) and forest products.

(21) Livestock breeding, processing and canning of livestock products.

(22) Finishing, preserving, milling, canning and processing of marine products.

(23) Producing fertilizers, insecticides and animal feeds.

(24) Manufacturing of personal goods.

(25) Manufacturing of household goods.

(26) Manufacturing of vehicles, machineries and spares.

(27) Manufacturing of arts and crafts, lacquer wares and furniture.

(28) Manufacturing of construction materials and paints.

(29) Manufacturing of factory utensils.

(30) Manufacturing of electrical and electronic goods.

(31) Manufacturing of textile, garments and clothing.

(32) To carry on the business of explanation, exploitation, production, processing of minerals and marketing of its products with the permission of the Government.

(33) All kinds of agency business, technical consultants, business consultants, management consultants and advisory services.

(34) Advertising and its agency business

(35) Business of entertainments and related activities.

(36) Business of all kind of medical services.

(37) Business of transportation (except railway and airway)

(38) Business of printing and publishing.

(39) Business of surveying and inspection.

(40) Business of feasibility study on new projects, project formulation, project appraisal and project evaluation.

(41) Business of Account writing, Auditing and legal advisory services.

(42) Business of serving, maintenance and repairing of all kind of vehicles and machines.

(43) Business of installation, maintenance and renovation of electrical and electronic goods.

(44) Construction.

(45) Gems.

(46) Travel & Tours

(47) Hotel

(48) Micro Finance And Financial Services.

7. The Company will carry on the following objectives in addition to the above objectives;

(1) The Construction of a modern multi-purpose international wharf.

(2) Ports Handling Services.

(3) Ports Services for management, operation of wharf.

PROVISO: Provided that the Company shall not exercise any business other than according to the above objectives whether in the Republic of the Union of Myanmar or any other regions elsewhere, save in so far as it may be entitled so as to do in accordance with the laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, orders and Notifications of the Republic of the Union of Myanmar for the time being in force.

## Liability of Members

8. The Liability of the member is limited.

## Shares Capital

9. The capital of the Company is Ks. 147,000,000,000/-(Kyats One Hundred and Forty Seven Billion Only) divided into (14,700,000) shares of Ks.10,000/- (Kyat Ten Thousand Only) each, as follows:-

| **"A" Share** | | **Value** | **Percent** |
|---|---|---|---|
| 5,880,000 shares of Ks 10,000/- | | | |
| (Kyats Ten Thousand) each | = | 58,800,000,000 | 40% |
| **"B" Share** | | | |
| 8,820,000 shares of ks 10,000 | | | |
| (Kyats Ten Thousand)each | = | 88,200,000,000 | 60% |

**"A" Shares** shall be held by the Ministry of Transport, Myanma Port Authority**,** the Republic of The Union Of Myanmar.

**"B" Shares** shall be held by the Sein Kaung Yadanar Company Limited.

In comparison, the rights and liabilities of "A" Shares and "B" Shares shall be the same.

## Alteration of Capital

10. The Company shall have the power in General Meeting to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provision for the time being in force in this behalf.

**Agreement To Form By Shares**

11. We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to talk the number of shares in the capital of the Company set opposite our respective names.

| Sr No | Sr No | Name, Address and Occupation of Subscriber | Nationality & C.S.C No | Number of Shares taken | Signatures |
|---|---|---|---|---|---|
| 1. | | **"A" Shares** | | | |
| | 1. | The Ministry of Transport,<br>Myanma port Authority,<br>Union of Myanmar<br>**<u>On behalf of the Ministry</u>**<br>Managing Director<br>U Kyaw Myint<br>No.4 (E), Bawdi Avenue Rd, BahaTownship, Yangon.<br>Managing Director<br>Myanma port Authority, | Myanmar<br>12/ Ma Ta Na (Naing)006176 | 5,880,000 Shares | |
| | 2. | The Ministry of Transport,<br>Myanma port Authority,<br>Union of Myanmar<br>**<u>On behalf of the Ministry</u>**<br>General Manager<br>U Ni Aung<br>No.32/36 ,Baho Rd, Dagon Township, Yangon.<br>General Manager<br>Myanma port Authority | Myanmar<br>10/ Ma La Ma (Naing)019534 | | |
| | 3. | The Ministry of Transport,<br>Myanma port Authority,<br>Union of Myanmar<br>**<u>On behalf of the Ministry</u>** | | | |

| | | | | | |
|---|---|---|---|---|---|
| | | Deputy General Manager<br>U Than Naing Oo<br>No.10, Oo Yin Rd, Kamaryout Township, Yangon.<br>Deputy General Manager<br>Myanma port Authority | Myanmar<br>1/ Ma Ka Na (Naing)051816 | | |
| | 4. | The Ministry of Transport,<br>Myanma Port Authority,<br>Union of Myanmar<br>**<u>On behalf of the Ministry</u>**<br>Chief Civil Engineer<br>U Mya Than<br>No.10, Oo Yin Rd,Kamaryout Township .Yangon.<br>Chief Civil Engineer<br>Myanma port Authority | Myanmar<br>12 / Ou Ka Ta<br>(Naing)131002 | | |
| | | "B" Shares | | | |
| | 1 | On behalf of Sein Kaung Yadanar Co.,Ltd<br>U Tin Maung win<br>No.(22), , Bawdi Yeitha Street, Shwtaunggyar (2) Ward,Bahan Tsp, Yangon. | Myanmar<br>12/Ba Ha Na<br>(Naing)045278 | 6,890,380 Shares | |
| | 2. | On behalf of Sein Kaung Yadanar Co.,Ltd<br>U Htin Kyaw<br>No.(101/Ka), Kyun Shwe Myaing (1) Street, Su Paung Housing Ward, Thingunkyun Tsp, Yangon. | Myanmar<br>12/Ma Ga Ta<br>(Naing)085150 | | |
| | 3. | On behalf of Sein Kaung Yadanar Co.,Ltd<br>U Soe Tint<br>No.(42)-B, 4 floor, New University Avenue Rd, Bahan Township, Yangon. | Myanmar<br>1/ Ma Ka Ta<br>(Naing)040970 | | |

Yangon. Date . 30 NOVember .2014.

It is hereby certified that the persons mentioned above put their signature in my presence.

U Sein Win
Certified Public Accountant
[illegible]

# SPECIAL COMPANY ACT, 1950

# &

# THE MYANMAR COMPANIES ACT

# PRIVATE COMPANY LIMITED BY SHARES

# ARTICLES OF ASSOCIATION

# OF

# MYANMAR SULE TERMINAL LIMITED

* * * * * * * *

1. The regulation contained in Table (A) in the First Schedule to the Myanmar Companies Act shall apply to the company, so far as such regulation which is inconsistent with the following Articles. The Compulsory Regulations stipulated in Section 17(2) of the Myanmar Companies Act shall always be deemed to apply to the Company.

2. The Company is to be a Private Company and accordingly following provisions shall have effect:-.

   (a) The number of member of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.

   (b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.

3. The authorized capital of the Company is Ks.147,000,000,000/- (Kyats One Hundred and Forty Seven Billion Only) divided into (14,700,000) shares of Ks.10,000/-(Kyat Ten Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from to time in accordance with the regulations of the Company and the legislative provision for the time being in force in this behalf. Out of this authorized capital, 40 percent (40%) will be contributed by Myanma Port Authority .

4. Subject to the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company m and Signed by the General Manager or some other persons nominated by the Board of directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of the Director may think fit. The legal representative of a deceased member shall be recognized by the Directors.

6. The Directors may, from time to time make call upon the member in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at times and places appointed by the Directors. A call may be payable by installments or may be revoked or postponed as the Directors may determine.

**Directors**

7. Unless otherwise determined by a General Meeting the number of Directors shall not be less (7) and not more than (15).

The First Directors shall be-

| | |
|---|---|
| (1) U Kyaw Myint , Managing Director, Myanma Port Authority | Chairman |
| (2) U Ni Aung, General Manager, Myanma Port Authority | Director |
| (3) U ThanNaing Oo, Deputy General Manager, Myanma Port Authority | Director |
| (4) U Mya Than, Chief Civil Engineer, Myanma Port Authority | Director |
| (5) U Tin Maung win, Sein kaung Yadanar Co.,ltd, | Director |
| (6) U Htin Kyaw, Sein Kaung Yadanar Co.,ltd | Director |
| (7) U Soe Tint , Sein kaung Yadanar Co.,ltd | Director |

8. **Chairman of the board of directors:** The chairman of the board of directors shall be the person who is selected by the representative of the Ministry of Transport, Myanma Port Authority, the Republic of the Union of Myanmar who own "A" shares.

9. The Director may from time to time appoint one of their bodies to the Managing Director for such terms and at such remuneration as they

think fit and powers delegated to him by the Board of Directors from time to time.

10. Remunerations for the directors: The remuneration of the directors shall from time to time be determined by the Company in General Meeting.

11. Shares to be held for being a director: No share is necessary to be held for the qualification of a director who is selected by the Ministry of Transport, Myanma Port Authority, the Government of the Union of Myanmar.

No share is necessary to be held for the qualification of a director who is selected by Sein Kaung Yadanar Co., Ltd. The Qualification of a Director shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

12. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

13. The Director may meet together for the dispatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, Five shall form a Quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

14. Any Director may at any time summon a meeting of Directors.

15. A resolution in writing signed by all the Directors shall be as effective for all purpose as a resolution passed out at meeting of the Directors, duty called, held and constituted.

## POWERS AND DURIES OF DIRECTORS

16. Without prejudice to general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly

declared that the Directors shall have the following powers, that is to say power;-

(a) To purchase or other otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit: also to sell, lease, abandon or otherwise seal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(b) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for time being,

(c) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be either specifically changed up on all or any part of the property of the Company and its uncalled capital or not so charged.

(d) To secure the fulfillment of any contract or engagement entered into the by the Company by mortgage or charge upon all or any of the property of the company and its uncalled capital for the time being or granting calls on shares or in such manner as they may think fit.

(e) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent,

temporary or special services as they may from time to time think fit and, to determine their duties and powers and fix their salaries or emolument and to require security in such instances in such amount as they thick fit and to depute any officers of the Company to do all or any of these things on their behalf.

(f) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(g) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(h) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(i) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(J) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(k) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(l) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(m) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases contracts and documents for or on behalf of the Company.

(n) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(0) To execute in the name and on behalf of the Company in favour any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(p) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(q) From time to time, to make, vary and repeal by laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(r) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid of otherwise for the purposes of the Company.

(s) To borrow money for the benefit of the Company's business from any person, firm or company of bank or financial organization of local and abroad in the manner that the Directors shall think fit.

17. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent, shall form a quorum for all purposes. And if and when in the case of there are only two numbers of members in the Company, those two members shall form a quorum.

**DIVIDENDS**

18. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

(a) Dividend shall be made at the ratio of 60:40 between "A" Share and "B" Share respectively, based on the profit occurred by the Company.

(b) In the future, in case share contribution ratio is changed, dividend ratio shall be changed, with the approved of the Board of Director. The ratio of the director between the parties may also be changed.

## OFFICE STAFF

19. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

20. The Directors shall cause to be kept proper books of account with respect to:-

***(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:***

***(2) all sales and purchases of goods by the Company;***

***(3) all assets and liabilities of the Company.***

21. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

22. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

23. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## The Seal

24. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

25. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

26. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

## Agreement To Form By Shares

27. We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to talk the number of shares in the capital of the Company set opposite our respective names.

| Sr No | Sr No | Name, Address and Occupation of Subscriber | Nationality & C.S.C No | Number of Shares taken | Signatures |
|---|---|---|---|---|---|
| 1. | | **"A" Shares** | | | |
| | 1. | The Ministry of Transport,<br>Myanma port Authority,<br>Union of Myanmar<br>**<u>On behalf of the Ministry</u>**<br>Managing Director<br>U Kyaw Myint<br>No.4 (E), Bawdi Avenue Road, Bahan Township, Yangon .<br>Managing Director<br>Myanma port Authority, | Myanmar<br>12/ Ma Ta Na<br>(Naing)006176 | 5,880,000<br>Shares | |
| | 2. | The Ministry of Transport,<br>Myanma port Authority,<br>Union of Myanmar<br>**<u>On behalf of the Ministry</u>**<br>General Manager<br>U Ni Aung<br>No.32/36, Baho Road, Dagon Township, Yangon.<br>General Manager<br>Myanma port Authority | Myanmar<br>10/ Ma La Ma<br>(Naing)019534 | | |
| | 3. | The Ministry of Transport,<br>Myanma port Authority,<br>Union of Myanmar<br>**<u>On behalf of the Ministry</u>** | | | |

| | | | | | |
|---|---|---|---|---|---|
| | | Deputy General Manager<br>U Than Naing Oo<br>No.10, Oo Yin Road, Kamaryout Township, Yangon.<br>Deputy General Manager<br>Myanma port Authority | Myanmar<br>1/ Ma Ka Na (Naing)051816 | | |
| | 4. | The Ministry of Transport,<br>Myanma Port Authority,<br>Union of Myanmar<br>**On behalf of the Ministry**<br>Chief Civil Engineer<br>U Mya Than<br>No.10, Oo Yin Road,Kamaryout Township ,Yangon.<br>Chief Civil Engineer<br>Myanma port Authority | Myanmar<br>12 / Ou Ka Ta (Naing)131002 | | |
| 2. | | **"B" Shares** | | | |
| | 1. | On behalf of Sein Kaung Yadanar Co.,Ltd<br>U Tin Maung win<br>No.(22), , Bawdi Yeitha Street, Shwtaunggyar (2) Ward,Bahan Township, Yangon. | Myanmar<br>12/Ba Ha Na (Naing)045278 | 6,890,380 Shares | |
| | 2. | On behalf of Sein Kaung Yadanar Co.,Ltd<br>U Htin Kyaw<br>No.(101/Ka), Kyun Shwe Myaing (1) Street, Su Paung Housing Ward, Thingunkyun Township, Yangon. | Myanmar<br>12/Ma Ga Ta (Naing)085150 | | |
| | 3. | On behalf of Sein Kaung Yadanar Co.,Ltd<br>U Soe Tint<br>No.(42)-B, 4 floor, New University Avenue Road, Bahan Township, Yangon. | Myanmar<br>1/ Ma Ka Ta (Naing)040970 | | |

Yangon. Date . 30 November .2014.

It is hereby certified that the persons mentioned above put their signature in my presence.

U Sein Win
Certified Public Accountant
C.P.A. Registration. No. 495

Myanmar Citizens Bank Ltd.

BANK STATEMENT

Account No: 1670709477

Name of Account: SEIN KAUNG YADANAR(S-1181)Trading C0;Ltd

Address: NO(256/260)SULE PAGODA ROAD,KYAUKTADA T/S.

Bank Statement for the month of : From 01/07/2014 To 02/07/2014

Page No. :1

| Date | Chq No | C/T/L | Reference | Debit | Credit | Balance |
|---|---|---|---|---|---|---|
| | | | B/F | | | 9875.00 |
| 02/07/2014 | | T | APRIL HLAING | | 1000000000.00 | 1000009875.00 |
| | | | Grand Total | 0.00 | 1,000,000,000.00 | |

Number Of Debit =0
Number Of Credit =1

C = Cash
T = Transfer
L = Clearing

ASST. MANAGER

MANAGER

THIS STATEMENT SHULD BE CAREFULLY CHECKED AND ANY DISCREPANCY SHOULD BE REPORTED TO THE BANK IMMEDIATELY.

MYANMA INVESTMENT AND COMMERCIAL BANK

B A N K   S T A T E M E N T

Account No: F0S101125

Name of Account: SEIN XAUNG YADANAR TRADING CO LTD

Address: NO69A,3RD FL,ROOM7,

BOYARNYUNT STREETDAGON TSP YANGON

Bank Statement for the month of : From 01/05/2014 To 31/05/2014

| Date | Particular | Chq: No. | C/T/L | CUR | Debit | Credit | Balance |
|---|---|---|---|---|---|---|---|
| | BALANCE FORWARD | | | USD | | | 42,826.35 |
| 22/05/2014 | RTT141501690 | L | TRF | USD | 25.00 | | 42,801.35 |
| 22/05/2014 | RTT141501690 | L | TRF | USD | 4,793.95 | | 38,007.40 |
| 27/05/2014 | - | L | TRF | USD | 2.00 | | 38,005.40 |
| 27/05/2014 | - | L | TRF | USD | 37,905.40 | | 100.00 |
| | Grand Total | | | | 42,726.35 | 0.00 | |

Unless the Bank is immediately notified of any discrepancy found in the statement of account, it will be taken that the account has been found to be correct.

TRANSACTION CODE

CSH : CASH

TRF : TRANSFER

CLG => CLEARING

Number Of Debit :4

Number Of Credit :0

MANAGER

ASST: MANAGER

(ဃ) **"ဖက်စပ်ကုမ္ပဏီလီမိတက်"** အောင်မြင်ရေးအတွက် ဥပဒေရေးရာ/ကုန်သွယ်ရေးရာ စသည့် လိုအပ်ချက်များကို ကူညီပံ့ပိုးပေးရမည်၊

(င) ဖက်စပ်ကုမ္ပဏီလုပ်ငန်းနှင့် စပ်လျဉ်း၍ဒါရိုက်တာဘုတ်အဖွဲ့က အခါအားလျော်စွာ အကူအညီတောင်းခံလာပါက အကူအညီပေးရမည်။

## အပိုဒ်-၁၁။ ဖက်စပ်ကုမ္ပဏီလီမိတက်၏ တာဝန်များ

၁၁။ **"ဖက်စပ်ကုမ္ပဏီလီမိတက်"** ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"ဖက်စပ်ကုမ္ပဏီလီမိတက်"**၏ လုပ်ငန်းလည်ပတ်ရေးအတွက် လိုအပ်သောစက်ကိရိယာနှင့် အခြားလိုအပ်သော ပစ္စည်းများထပ်မံဖြည့်စွက်ရန်လိုအပ်ပါက ရှာဖွေစုဆောင်းခြင်း၊ ဝယ်ယူခြင်းပြုရမည်၊

(ခ) **"ဖက်စပ်ကုမ္ပဏီလီမိတက်"** အကျိုးအမြတ်ရရှိရေးနှင့် အောင်မြင်ရေးအတွက် အကောင်အထည်ဖော်ဆောင်ရွက်ရမည်၊

(ဂ) **"ဖက်စပ်ကုမ္ပဏီလီမိတက်"** ၏ အဆောက်အဦစက်ပစ္စည်းများနှင့် အခြားအာမခံထားရန် လိုအပ်မည့်ပစ္စည်းများကို မြန်မာ့အာမခံလုပ်ငန်းဥပဒေ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေများနှင့်အညီ အာမခံထားရှိရမည်၊

(ဃ) **"ဖက်စပ်ကုမ္ပဏီလီမိတက်"**အတွက် ရင်းနှီးထည့်ဝင်ငွေများလိုအပ်ပါက ဒါရိုက်တာများအဖွဲ့၏ ဆုံးဖြတ်ချက်ဖြင့် ချေးငွေရယူရန် (သို့) ရင်းနှီးမြှုပ်နှံငွေ ထပ်မံရှာဖွေရမည်၊

(င) **"ဖက်စပ်ကုမ္ပဏီလီမိတက်"** သည် **"ခေတ်မီဆူးလေဆိပ်ကမ်း"** တွင် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်းအတွက် ကျသင့်သော လျှပ်စစ်ဓါတ်အားသုံးစွဲခ၊ စည်ပင်သာယာခွန်နှင့် အခါအားလျော်စွာ ကောက်ခံသည့် အခွန်အခများကို ပေးဆောင်ရမည်။

(စ) **"ခေတ်မီဆူးလေဆိပ်ကမ်း"** တွင် ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ၊ အထွေထွေထောက်ပံ့မှုနှင့် အခြားအထောက်အကူပြု ဝန်ဆောင်မှုများကို နိုင်ငံတကာအဆင့်မှီဖြည့်ဆည်း ဆောင်ရွက်ပေးနိုင်ရေးအတွက် လိုအပ်ပါက ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများတွင် လုပ်ငန်းအတွေ့အကြုံကြွယ်ဝပြီး ကျွမ်းကျင်ဝန်ထမ်းအင်အား၊

နည်းပညာနှင့် ခနငွေကြေးအင်အား ခိုင်မာတောင့်တင်းသော နိုင်ငံတကာအသိအမှတ်ပြု ကုမ္ပဏီ/အဖွဲ့စည်းတစ်ခုခုနှင့်ပူးပေါင်း၍ ဆောင်ရွက်ရေးကို ဒါရိုက်တာဘုတ်အဖွဲ့၏ သဘောတူဆုံးဖြတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

(ဆ) မည်သည့်အကြောင်းကြောင့်ဖြစ်စေ ဖက်စပ်ကာလအတွင်း **"ခေတ်မီဆူးလေဆိပ်ကမ်း"** တွင် ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများအစား မည်သည့်စီးပွားရေးလုပ်ငန်းဆောင်တာများကိုမဆို ပြောင်းလဲဆောင်ရွက်ရန် ပေါ်ပေါက်လာပါက ဒါရိုက်တာဘုတ်အဖွဲ့၏ သဘောတူညီချက်ရယူ၍ **"ဖက်စပ်ကုမ္ပဏီလီမိတက်"** အား ဆက်လက်ဆောင်ရွက်ခွင့်ပြုရမည်။

## အပိုဒ်-၁၂။ ဖက်စပ်ကုမ္ပဏီလီမိတက်၏လုပ်ငန်းစီမံခန့်ခွဲမှု

၁၂။ (က) **"ဖက်စပ်ကုမ္ပဏီလီမိတက်"**၏ စီမံခန့်ခွဲမှုကိုဒါရိုက်တာ(၇)ဦးပါဝင်သော ဒါရိုက်တာများအဖွဲ့ဖွဲ့စည်း၍ ဆောင်ရွက်ရမည်။ "က" အစုရှယ်ယာရှင် "MPA" ဘက်မှ ဒါရိုက်တာ(၄)ဦးနှင့် **"ခ"** အစုရှယ်ယာရှင်ဘက်မှ ဒါရိုက်တာ(၃)ဦးတို့ ပါဝင်သော စုစုပေါင်းဒါရိုက်တာ(၇)ဦး ပါဝင်သည့် ဒါရိုက်တာအဖွဲ့ဖွဲ့စည်းမည် ဖြစ်သည်။ ဒါရိုက်တာအဖွဲ့၏ ဥက္ကဋ္ဌကို "က" အစုရှယ်ယာရှင် "MPA" အား ကိုယ်စားပြုသော ဒါရိုက်တာများထဲမှ ရွေးချယ်ခန့်ထားရမည်။

(ခ) "က" အစုရှယ်ယာရှင် "MPA" သည် **"ဖက်စပ်ကုမ္ပဏီလီမိတက်"** အတွက် မိမိခန့်ထားသော (သို့) ခန့်ထားရန်လျာထားသော ဒါရိုက်တာများအား ပြင်ဆင်ခြင်း၊ ပြောင်းရွှေ့ခြင်း၊ ရာထူးမှနုတ်ပယ်ခွင့်၊ ထိုသို့နုတ်ပယ်သည့် ဒါရိုက်တာရာထူးနေရာတွင် အစားထိုးခန့်ထားခွင့်ရှိပြီး၊ ဒါရိုက်တာအနားယူခြင်း၊ နုတ်ထွက်ခြင်း၊ အလုပ်တာဝန်ထမ်းဆောင်နေစဉ် ကွယ်လွန်ခြင်းစသည့် အကြောင်းများကြောင့် လစ်လပ်ဖြစ်ပေါ်လာသော ဒါရိုက်တာရာထူးနေရာများတွင် အသစ်ခန့်အပ်ခွင့်ရှိသည်။

(ဂ) Operation Management အဖွဲ့သည် "ဖက်စပ်ကုမ္ပဏီလီမိတက်" ၏ နေ့စဉ်လုပ်ငန်းများကိုစီမံခန့်ခွဲရမည်။ "ဖက်စပ်ကုမ္ပဏီလီမိတက်"၏ လုပ်ငန်းများနှင့်စပ်လျဉ်း၍ မှတ်တမ်းများ၊ ငွေစာရင်းဇယားများကို အများလက်ခံကျင့်သုံးသော ထားသိုနည်းများနှင့်အညီ စနစ်တကျ ထိန်းသိမ်းထားရှိရမည်ဖြစ်ပြီး ဒါရိုက်တာများအဖွဲ့မှ ကြည့်ရှု

စစ်ဆေးနိုင်ရန် တင်ပြရမည်။ Operation Management အဖွဲ့ကိုဖွဲ့စည်းရာတွင် ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ၊ အထွေထွေထောက်ပံ့မှုနှင့် အခြားအထောက်အကူပြု ဝန်ဆောင်မှုများကို နိုင်ငံတကာအဆင့်မှီ ဖြည့်ဆည်းဆောင်ရွက်ပေးနိုင်ရေးအတွက် ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းပိုင်းဆိုင်ရာ ကျွမ်းကျင်သူများ၊ ဆိပ်ကမ်းစီမံခန့်ခွဲရေးဆိုင်ရာ ကျွမ်းကျင်သူများ၊ မြို့ပြအင်ဂျင်နီယာ၊ စက်မှုအင်ဂျင်နီယာနှင့် လျှပ်စစ်အင်ဂျင်နီယာရပ်ပိုင်းဆိုင်ရာ ကျွမ်းကျင်သူများ၊ ငွေစာရင်းဆိုင်ရာ ကျွမ်းကျင်သူများစသည့် လုပ်ငန်းအတွေ့အကြုံကြွယ်ဝပြီး ကျွမ်းကျင်သောဝန်ထမ်းများဖြင့် ဖွဲ့စည်းရမည်။ Operation Management အဖွဲ့ခေါင်းဆောင်ကို "ခ"အစုရှယ်ယာရှင်များဘက်မှ အဆိုပြုသူအားရွေးချယ်ရမည်။

(ဃ) **"ဖက်စပ်ကုမ္ပဏီလီမိတက်"** ကို ဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးနောက် ၁၈ (တစ်ဆယ့်ရှစ်) လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့်နေရာတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးနှင့် တစ်ဆယ့်ငါးလထက် မပိုသောအချိန်၌ ကျင်းပရမည်။ အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကျင်းပရာတွင် ထုတ်ဝေထားသည့် မတည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ၅၀%နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့်(နှစ်ဦးထက်မနည်းသော) အစုရှယ်ယာရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ရန်အတွက် အစည်းအဝေး အထမြောက်သည့်ဦးရေ ဖြစ်သည်။

(င) ထို့အပြင် **"ဖက်စပ်ကုမ္ပဏီလီမိတက်"** ၏ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည်ဟုထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံးဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ထိုသို့မသတ်မှတ်ပါက ဒါရိုက်တာ (၅) ဦးတက်ရောက်လျှင် အစည်းဝေးထမြောက်ရမည်။

(စ) ဒါရိုက်တာအဖွဲ့၏ဥက္ကဋ္ဌသည် ဒါရိုက်တာအဖွဲ့အစည်းအဝေးအားလုံးနှင့် **"ဖက်စပ်ကုမ္ပဏီလီမိတက်"** ၏ အထွေထွေအစည်းအဝေးများ၏ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်ရမည်။ အစည်းအဝေးများတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်လာပါက မဲများရာဖြင့်

ဆုံးဖြတ်ရမည်။ ဥက္ကဋ္ဌသည် "ဖက်စပ်ကုမ္ပဏီလီမိတက်" ၏ ဒါရိုက်တာ အဖွဲ့အစည်း အဝေးနှင့် အထွေထွေအစည်းအဝေးများတွင် ဒုတိယမဲ သို့မဟုတ် အဆုံးအဖြတ်မဲ ပေးခွင့်ရှိသည်။

(ဆ) ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေးခေါ်ဆို နိုင်ပြီး ဒါရိုက်တာအဖွဲ့အစည်းအဝေး အသီးသီးကို အနည်းဆုံး(၇)ရက် ကြိုတင်၍ အစည်းအဝေးဖိတ်ကြားစာဖြင့် အကြောင်းကြားပေးပို့ရမည်။

(ဇ) ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော စာဖြင့်ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြု ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

## အပိုဒ်-၁၃။ ဝန်ထမ်းများခန့်ထားခြင်း

၁၃။ (က) "ဖက်စပ်ကုမ္ပဏီလီမိတက်"သည် ဝန်ထမ်းများခန့်ထားရာတွင် အရည်အချင်းပြည့်ဝ သောအလုပ်သမားများနှင့် လုပ်ငန်းကျွမ်းကျင်သောပညာရှင်များကို ရွေးချယ်ခန့်ထား ခွင့်ရှိစေရမည်။ ထိုသို့ခန့်ထားရာတွင် "MPA" မှ ပြောင်းရွှေ့လိုသော လက်ရှိဝန်ထမ်း များနှင့် နိုင်ငံသားများကို ဦးစားပေးခန့်ထားရမည်၊

(ခ) "ဖက်စပ်ကုမ္ပဏီလီမိတက်" တွင် တာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား လစာနှင့် ဆုကြေးသတ်မှတ်ပေးခြင်း၊ ဆုပေးခြင်းနှင့် ဒဏ်ပေးခြင်း၊ ရာထူးတိုးမြှင့် ပေးခြင်း၊ ရာထူးချခြင်း၊ အလုပ်မှပြောင်းရွှေ့စေခြင်းနှင့် အလုပ်မှထုတ်ပယ်ခြင်း စသည် တို့ကို "ဖက်စပ်ကုမ္ပဏီလီမိတက်" Operation Management အဖွဲ့၏ အစီအစဉ်ဖြင့်သာ ဆောင်ရွက်ရမည်၊

(ဂ) "ဖက်စပ်ကုမ္ပဏီလီမိတက်" ၏ စာရင်းစစ်ကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ (၁၄၅- က) ပါ ပြဋ္ဌာန်းချက်များနှင့်အညီ စာရင်းစစ်အဖွဲ့ကို ခန့်ထားရမည်။

## အပိုဒ်-၁၄။ တည်ဆောက်ရေးကာလ

၁၄။ **"ဖက်စပ်ကုမ္ပဏီလီမိတက်"** သည် **"ခေတ်မီဆူးလေဆိပ်ကမ်းဖွံ့ဖြိုးရေးစီမံကိန်း"**ကို အောက်ပါ လုပ်ငန်းစီမံကိန်းအဆင့်အလိုက် တည်ဆောက်သွားရန်ဖြစ်သည် -

(က) **"ခေတ်မီဆူးလေဆိပ်ကမ်းဖွံ့ဖြိုးရေးစီမံကိန်း"** ပါ ပူးတွဲ(၂)တွင် ဖော်ပြထားသည့် ပထမအဆင့် တည်ဆောက်ရေးလုပ်ငန်းများကို ဖက်စပ်လုပ်ငန်းသဘောတူစာချုပ် လက်မှတ် ရေးထိုးပြီး ၂၄ (နှစ်ဆယ်လေး) လအတွင်း အပြီးဆောင်ရွက်ရမည်။

(ခ) **"ခေတ်မီဆူးလေဆိပ်ကမ်းဖွံ့ဖြိုးရေးစီမံကိန်း"** ပါ အဆင့်လိုက် တည်ဆောက်ရေး လုပ်ငန်းများကို ဒါရိုက်တာဘုတ်အဖွဲ့က သဘောတူဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက် ရန် ဖြစ်သည်။ စီမံကိန်းလုပ်ငန်းတစ်ခုလုံးကို ဖက်စပ်သဘောတူစာချုပ် သက်တမ်း စတင်သည့်နေ့မှစ၍ ပူးတွဲ(၃)ပါ စီမံကိန်းကာလ (၈)နှစ်အတွင်း အပြီးတည်ဆောက် ရမည်။

(ဂ) **"ခေတ်မီဆူးလေဆိပ်ကမ်းဖွံ့ဖြိုးရေးစီမံကိန်း"** ပါ တည်ဆောက်ရေးလုပ်ငန်းများကို မမျှော်မှန်းထားခဲ့သည့် အကြောင်းတစ်စုံတစ်ရာကြောင့် သတ်မှတ်ကာလအတွင်း တည်ဆောက်မှု လုပ်ငန်းများမပြီးပြတ်ပါက တည်ဆောက်ရေးကာလ သက်တမ်း တိုးမြှင့်မှုကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့်၍ ဆောင်ရွက်ရမည်။

## အပိုဒ်-၁၅ ။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု

၁၅။ **"ဖက်စပ်ကုမ္ပဏီလီမိတက်"** သည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုအတွက် အောက်ပါတို့ကို တာဝန်ယူဆောင်ရွက်ရမည်-

(က) လုပ်ငန်းစီမံကိန်းနယ်မြေနှင့် ၎င်းနယ်မြေတစ်ဝိုက်တွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်း ရေး၊

(ခ) လေထု၊ ရေထုနှင့် မြေထုများ၊ ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှုမရှိအောင် ထိန်းသိမ်းရေး၊

(ဂ) လုပ်ငန်းစီမံကိန်းနေရာအား သဘာဝပတ်ဝန်းကျင်နှင့် လိုက်လျောညီထွေဖြစ်အောင် ထိန်းသိမ်းနိုင်ရန်၊ ရေဆိုးနှင့် စွန့်ပယ်ပစ္စည်းများ ထိန်းသိမ်းသည့် စက်ကိရိယာများ တပ်ဆင်မှုအပါအဝင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးအတွက် လိုအပ်သောအစီအမံများကို ချမှတ်ဆောင်ရွက်ရမည်။

## အပိုဒ်-၁၆။ ဖက်စပ်စာချုပ်ကို ရပ်စဲခြင်း

၁၆။ ဤ ဖက်စပ်စာချုပ်ကို အောက်ပါအကြောင်း တစ်ရပ်ရပ်ပေါ်ပေါက်ပါက ရပ်စဲနိုင်သည် -

(က) လုပ်ငန်းကြီးမားစွာ ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) ဖက်စပ်စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(ဂ) မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များသည် တစ်ဆက်တည်း(၆)လထက်ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း၊

(င) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ဖက်စပ်စာချုပ်ကိုရပ်စဲခြင်း၊

(စ) စာချုပ်ရပ်စဲရာတွင် **"ဖက်စပ်ကုမ္ပဏီလီမိတက်"** ၏ အစုဝင်ပိုင်ဆိုင်ခြင်းကို ရပ်စဲသော စာချုပ်ဝင်သည် မန်နေဂျင်းဒါရိုက်တာ(သို့မဟုတ်) ဒုတိယမန်နေဂျင်းဒါရိုက်တာ (သက်ဆိုင်သလို) တို့ နှုတ်ထွက်ခြင်းအပါအဝင် မိမိခန့်ထားသော ဒါရိုက်တာများ အားလုံးနှင့် ဤစာချုပ်နှင့်ဆက်နွယ်၍ (သို့မဟုတ်) ဤစာချုပ်နှင့်အညီ ခန့်အပ်ထားသော အခြားလက်အောက်ခံ ကုမ္ပဏီခွဲများ၏ ဒါရိုက်တာများ အားလုံးရှိခဲ့လျှင် ယင်းတို့အားလုံးကို ချက်ချင်းနှုတ်ထွက်စေရမည်။ အပိုဒ် ၁၆(က)မှ ၁၆(င) နှင့်အညီ ဤစာချုပ်ကို ရပ်စဲရာတွင် **"MPA"** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ ဥပဒေများနှင့်အညီ **"ဖက်စပ်ကုမ္ပဏီလီမိတက်"** ၏ စနစ်တကျဖျက်သိမ်းခြင်းကို ကူညီပေးရမည်။

## အပိုဒ်-၁၇။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၇။ (က) မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့သည့်ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင်၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငွေးရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင်**"ဖက်စပ်ကုမ္ပဏီလီမိတက်"** သည် **"MPA"** သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။

(ခ) ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက် အတွင်း **"ဖက်စပ်ကုမ္ပဏီလီမိတက်"**သည် **"MPA"** သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ **"MPA"** က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး ဤဖက်စပ်သဘောတူစာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များ ပျက်ကွက်ခြင်း၊ နှောင့်နှေးကြန့်ကြာခြင်းသည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဖြစ်ပါက ကင်းလွတ်ခွင့်ပြုရမည်။

## အပိုဒ်-၁၈။ အငြင်းပွားမှုဖြေရှင်းခြင်း

၁၈။ ဤဖက်စပ်သဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။

## အပိုဒ်-၁၉။ ပြင်ဆင်ခြင်း

၁၉။ ဤဖက်စပ်စာချုပ်တွင် မျှော်မှန်းမထားသောအခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ဖက်စပ်စာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် ဖက်စပ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤဖက်စပ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

## အပိုဒ်-၂၀။ ဖက်စပ်စာချုပ်ညှိနှိုင်းဆွေးနွေးခြင်း

၂၀။ ဤဖက်စပ်စာချုပ်တွင် မူလက မမျှော်မှန်းထားသော အခြေအနေတစ်ရပ်ရပ် (သို့မဟုတ်) အနေအထား တစ်ရပ်ရပ်ဖြစ်ပေါ်လာပါ၍ ဖက်စပ်စာချုပ်ကိုပြင်ဆင်ရန် (သို့မဟုတ်) ပြောင်းလဲရန် ပေါ်ပေါက်လာသည့်အခါ နှစ်ဖက်စာချုပ်ဝင်တို့သည် သင့်လျော်သည့် ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ဖြည့်စွက်ခြင်းများ ဆောင်ရွက်နိုင်ရန် သဘောရိုးဖြင့်ညှိနှိုင်းဆွေးနွေးရမည်။

## အပိုဒ်-၂၁။ ဖက်စပ်စာချုပ်သက်တမ်းတိုးမြှင့်ခြင်း

၂၁။ ဤဖက်စပ်စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ဖက်စပ်စာချုပ်သက်တမ်းမကုန်ဆုံးမီ ၆(ခြောက်)လ အတွင်း နှစ်ဖက်ညှိနှိုင်း သဘောတူညီမည့် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်း၊ နှုန်းထားများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့်သာ ဖက်စပ်သဘောတူစာချုပ် သက်တမ်းတိုးရန်ဖြစ်သည်။

## အပိုဒ်-၂၂။ ခွင့်ပြုလွှဲအပ်ခြင်း

၂၂။ ဤဖက်စပ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ဖက်စပ်စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက ဒါရိုက်တာဘုတ်အဖွဲ့၏ သဘောတူညီမှုဖြင့်သာ ခွင့်ပြုလွှဲအပ်မှု စာချုပ်စာတမ်းပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့်ရှိသည်။

## အပိုဒ်-၂၃။ အာမခံထားရှိခြင်း

၂၃။ **"ဖက်စပ်ကုမ္ပဏီလီမိတက်"** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သောအာမခံများ ထားရှိဆောင်ရွက်ရမည်။

## အပိုဒ်-၂၄။ အထွေထွေကိစ္စရပ်များ

၂၄။ (က) **တရားမဝင်ခြင်း။** ဤဖက်စပ်သဘောတူစာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင်ပေါ်ပေါက်စေကာမူ ဤဖက်စပ်စာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ဆက်လက်၍ အပြည့်အဝ အကျိုးသက်ရောက်မှုရှိစေရမည်။

(ခ) **ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။** ဤဖက်စပ်သဘောတူစာချုပ်ပါ ပြဋ္ဌာန်းချက်တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို(သို့မဟုတ်) ဖက်စပ်သဘောတူစာချုပ်၏ အခြားပြဋ္ဌာန်းချက်တစ်စုံတစ်ရာကို ဆက်လက်ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာမရောက်စေရ။

ဤဖက်စပ်သဘောတူစာချုပ်တွင်ဖော်ပြပါရှိသောအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်တစ်စုံတစ်ရာကို စာချုပ်တွင် ပါဝင်လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင် ထိုအခွင့်ရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့် တစ်ခုတည်းကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို ရယူရန် ဟန့်တားရာ မရောက်စေရ။

(ဂ) **အရေးကြီးသောပစ္စည်းများတွေ့ရှိမှု။** **"ဖက်စပ်ကုမ္ပဏီလီမိတက်"** သည် ငှားရမ်းမြေပေါ်တွင် တူးဖော်ခြင်း (သို့မဟုတ်) ဖောက်ခွဲခြင်းလုပ်ငန်းပြုလုပ်စဉ် အရေးကြီးသော မည်သည့်တွေ့ရှိမှုကိုမဆို **"MPA"**ထံချက်ချင်းအကြောင်းကြားရမည်။ အရေးကြီးသော ပစ္စည်းများ တွေ့ရှိမှုဆိုရာတွင် မြေတူးစဉ်နှင့်ဖောက်ခွဲမှုပြုလုပ်စဉ်တွေ့ရှိရသော အနုပညာ၊ ရှေးဟောင်းပစ္စည်းများ၊ သဘာဝသမိုင်း၊ ဒင်္ဂါးများနှင့် သိပ္ပံဆိုင်ရာ အရေးပါသော အရာဝတ္ထုများ၊ ရှားပါးပြီးတန်ဖိုးရှိသောပစ္စည်းများနှင့် သဘာဝ သယံဇာတ အရင်းအမြစ်များပါဝင်ပြီး အဆိုပါပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများ ဖြစ်သည်။

**"MPA"** သည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာ အစိုးရအဖွဲ့အစည်းသို့ တင်ပြ၍ အတည်ပြုချက်ရယူပြီးမည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ရယူခွင့်ရှိစေရမည်။

(ဃ) **တစ်စိတ်တစ်ဒေသအဖြစ်မှတ်ယူခြင်း။** ဤဖက်စပ်စာချုပ်တွင် ပါဝင်လက်မှတ်ရေးထိုးသူများအကြား ချုပ်ဆိုသည့် မြေငှားစာချုပ်အပါအဝင် နောက်ဆက်တွဲများအားလုံးကို ဤဖက်စပ်စာချုပ်၏ တစ်စိတ်တစ်ဒေသအဖြစ် မှတ်ယူရမည်။

(င) **အကြောင်းကြားစာများ။** ဤဖက်စပ်စာချုပ်တွင် အခြားနည်းပြဋ္ဌာန်းထားချက်များမှတစ်ပါး ဤဖက်စပ်စာချုပ်အရလိုအပ်သော (သို့မဟုတ်) ခွင့်ပြုထားသော အကြောင်းကြားစာတောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှုအားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏ လိပ်စာတပ်၍ လူကိုယ်တိုင်သော်လည်းကောင်း၊ စာတိုက်မှ မှတ်ပုံတင်၍ သော်လည်းကောင်း၊ ဖက်(စ်)ဖြင့် သော်လည်းကောင်း ပေးပို့ရမည်။ ဖော်ပြပါ အကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်)အခြားဆက်သွယ်မှု (ဤမှနောင်တွင် "အကြောင်းကြားစာ" ဟုရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်က လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည်-

(၁) ဖက်(စ်)ဖြင့် အကြောင်းကြားစာ ပေးပို့ပြီးဖြစ်ပါက၊ ဖက်(စ်)နံပါတ်၊ စာမျက်နှာအရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြုဖော်ပြထားသည့် သတင်းပေးပို့ချက်မှတ်တမ်းကို ပေးပို့သူကလက်ခံရရှိလျှင် အဆိုပါ အကြောင်းကြားစာကို တရားဝင်ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍ အကြောင်းကြားစာကို လက်ခံမည့်သူ၏ လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး) ရက်မြောက်နေ့တွင် စာအိတ်ပေါ်၌ ရေးသားထားသည့် လိပ်စာရှင်ထံသို့ တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

## အပိုဒ်-၂၅။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၂၅။ စာချုပ်ဝင်တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းတို့သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၎င်းတွင် ဤဖက်စပ်စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်

အာဏာ၊ ခိုင်မာသောဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူဖြစ်ကြောင်း ကိုယ်စားပြုအာမခံချက် ပေးပါသည်။

## အပိုဒ်-၂၆။ ဆက်သွယ်ရန် လိပ်စာများ

၂၆။ ဤဖက်စပ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသားဆက်သွယ်ရန် လိပ်စာမှာ အောက်ပါ အတိုင်း ဖြစ်သည်-

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမှတ် (၁၀) ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

ဖက်(စ်)အမှတ်-၂၄၆၇၈၁၊ ၃၉၁၃၅၅

နှင့်

---

မန်နေဂျင်းဒါရိုက်တာ

Sein Kaung Yadanar Trading Co., Ltd.

အမှတ် (၁၂၆ -အေ)၊ ကမ္ဘာအေးဘုရားလမ်း၊

ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း၊ ၅၀၁၄၃၀၊ ဖက်(စ်)အမှတ်- (၀၁) ၅၄၄၃၃၀

သက်သေအဖြစ်ရှားစိမ့်သော်ငှာ၊ စာချုပ်ချုပ်ဆိုရာတွင်ပါဝင်သူများသည် အထက်ဖော်ပြပါ (   )ရက်နေ့၊ -------------- လ၊ ၂၀၁၄ ခုနှစ်တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ ဤဖက်စပ်သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်-

MPA (ကိုယ်စား)　　　　　　　　SKY(ကိုယ်စား)

အမည် - ဦးကျော်မြင့်
ရာထူး - ဦးဆောင်ညွှန်ကြားရေးမှူး
ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမည် - ဦးတင်မောင်ဝင်း
ရာထူး - မန်နေးဂျင်းဒါရိုက်တာ
ဌာန - Sein Kaung Yadanar Trading Co., Ltd.

အသိသက်သေများ

အမည် - ဦးနီအောင်
ရာထူး - အထွေထွေမန်နေဂျာ
ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမည် - ဦးစိုးတင့်
ရာထူး - ဒါရိုက်တာ
ဌာန - Sein Kaung Yadanar Trading Co., Ltd.

ပို့ဆောင်ရေးဝန်ကြီးဌာန

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

**Myanmar Sule Terminal Limited**

တို့အကြား

ရန်ကုန်ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံတံတား အမှတ် (၁)၊ (၂)၊ (၃) နှင့် (၄) တို့အား ကုန်သေတ္တာ နှင့် အထွေထွေကုန်စည်ကိုင် အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင် ပြုပြင်တည်ဆောက်ခြင်း လုပ်ငန်းအတွက် ချုပ်ဆိုသည့်

မြေငှားစာချုပ် (မူကြမ်း)

၂၀၁၄ ခုနှစ်၊ - - - - - - - လ (   )ရက်

# မြေငှားစာချုပ် (မူကြမ်း)

ဤသဘောတူစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တွင် ၂၀၁၄ ခုနှစ်၊ - - - - - - - - - - - - လ (    ) ရက်နေ့၌

ဦးကျော်မြင့်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ပို့ဆောင်ရေးဝန်ကြီးဌာန လက်အောက်ရှိ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်** (ဤမှ နောင်တွင် **"မြေငှားရမ်းသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော် လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်

နှင့်

ဦးတင်မောင်ဝင်း၊ ဒါရိုက်တာ၊ နိုင်ငံသားစိစစ်ရေး ကဒ်ပြားအမှတ်၊ ၁၂/ဗဟန(နိုင်)၀၄၅၂၇၈ ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသော ဖက်စပ်ကုမ္ပဏီဖြစ်သည့် မြန်မာဆူးလေဆိပ်ကမ်းလီမိတက် (Myanmar Sule Terminal Limited) (ဤမှနောင်တွင် **"မြေငှားချထားခြင်းခံရသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများပါဝင်သည်ဟု မှတ်ယူရမည်) က အခြားတစ်ဖက်တို့ချုပ်ဆိုကြပါသည်။

(က) **"မြေငှားရမ်းသူ"** သည် **"ငှားရမ်းသည့်မြေ"** ကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်း ကိုယ်စားပြု အာမခံချက်ပေးသဖြင့် လည်းကောင်း၊

(ခ) **"မြေငှားရမ်းသူ"** က ပိုင်ဆိုင်သော ရန်ကုန်ဆိပ်ကမ်းဒေသ၊ ဆူးလေအမှတ် (၁)၊ (၂)၊ (၃)နှင့် (၄) ဆိပ်ကမ်းဝင်းတည်ရှိရာ **ပူးတွဲ(၁)**တွင် အနီရောင်ဖြင့်ဘောင်ခတ်ထားသော မြေကွက်၊ စုစုပေါင်းဧရိယာ(၁၅. ၄၉၆)ဧက (၆၂၇၀၂. ၃၀ စတုရန်းမီတာ) အကျယ်အဝန်းရှိ မြေနေရာ (နောင်တွင် **"အကျိုးတူဆောင်ရွက်သည့်မြေ"**ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို ငှားရမ်းလိုသောဆန္ဒရှိပြီး၊ **"မြေငှားချထားခြင်းခံရသူ"**က အောက်တွင် ဆက်လက်ဖော်ပြမည့် စည်းမျဉ်း၊ စည်းကမ်းများ နှင့်အညီ **"အကျိုးတူဆောင်ရွက်သည့်**

မြေ" တွင် နိုင်ငံတကာအဆင့်မီ ဘက်စုံသုံးဆိပ်ခံတံတားအဖြစ် အဆင့်မြှင့်တင်ပြုပြင်တည်ဆောက်၍ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများကို နှစ်ပေါင်း ၃၀ (သုံးဆယ်) နှစ် လုပ်ကိုင်ခွင့်ပြုရန် သဘောတူသဖြင့် လည်းကောင်း၊

ဤမြေငှားစာချုပ်ကို နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူချုပ်ဆိုကြပါသည်-

၁။ ဤမြေငှားစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်အကျိုးသက်ရောက်စေရမည်။ ဤမြေငှားစာချုပ်သည် ဖက်စပ်သဘောတူစာချုပ်၏ အပိုဒ်-၁၄(က)ပါ ပထမအဆင့် တည်ဆောက်ရေးကာလ စေ့ရောက်သည့်နေ့ (သို့မဟုတ်) တရားဝင်ဖွင့်လှစ်ခြင်း (Grand Opening) ပြုလုပ်သည့်နေ့၊ ထိုနေ့နှစ်ရပ်အနက် စောရာကာလမှစတင်၍ မြေငှားစာချုပ်သက်တမ်းကို စတင်ရေတွက်ရမည်ဖြစ်ပြီး မြေငှားစာချုပ်သက်တမ်းမှာ နှစ်ပေါင်း ၃၀ (သုံးဆယ်) နှစ်ခွင့်ပြုရန် သဘောတူသည်။

၂။ "မြေငှားချထားခြင်းခံရသူ" အား "အကျိုးတူဆောင်ရွက်သည့်မြေ" တွင် နိုင်ငံတကာအဆင့်မီ ဘက်စုံသုံးဆိပ်ခံတံတားအဖြစ် အဆင့်မြှင့်တင်ပြုပြင်တည်ဆောက်ကာ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုခြင်းအတွက် "မြေငှားချထားခြင်းခံရသူ" မှ "မြေငှားရမ်းသူ" ထံသို့ နှစ်စဉ်မြေငှားရမ်းခအဖြစ် မြေငှားစာချုပ်သက်တမ်း စတင်အကျိုးသက်ရောက်သည့်နေ့မှစပြီး အောက်တွင် ဖော်ပြထားသော နှုန်းထားများအတိုင်း လစဉ်မြေငှားရမ်းခနှုန်းထားအဖြစ် USD ၁၁၀၉၃၈. ၀၈ (အမေရိကန်ဒေါ်လာ တစ်သိန်းတစ်သောင်း ကိုးရာသုံးဆယ့်ရှစ် ဒသမသုညရှစ် တိတိ) အင်္ဂလိပ်လဆန်း ၇ (ခုနှစ်) ရက်မတိုင်မီ "မြေငှားချထားခြင်းခံရသူ" က"မြေငှားရမ်းသူ" ထံ ပေးသွင်းရမည်ဖြစ်ပြီး၊ ပထမလအတွက် မြေငှားရမ်းခ စတင်ပေးဆောင်ရမည့်အစီအစဉ်ကို နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်ရမည်-

မြေဧရိယာ ၁၅. ၄၉၆ ဧက (၆၂၇၁၂. ၃၁ စတုရန်းမီတာ) အတွက် တစ်လလျှင် မြေတစ်စတုရန်းမီတာကို USD ၁. ၇၆၉ နှုန်း) = USD ၁၁၀၉၃၈. ၀၈

၃။ “မြေငှားချထားခြင်းခံရသူ” သည်“မြေငှားရမ်းသူ”ထံသို့ အောက်ပါအတိုင်း ခံဝန်ကတိပြုသည် -

(က) “အကျိုးတူဆောင်ရွက်သည့်မြေ”အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကို သော်လည်းကောင်း ထပ်ဆင့်အငှားချထားခြင်း၊ ပေါင်နှံခြင်းမပြုရန်၊

(ခ) တည်ဆောက်မည့် ဆိပ်ခံတံတားနှင့် စက်ကရိယာများအတွက် ဆက်နွယ်သည့် ရင်းနှီးမြှုပ်နှံမည့် ကုန်ကျစရိတ်အားလုံးကို ကျခံရန်၊

(ဂ) “အကျိုးတူဆောင်ရွက်သည့်မြေ”နေရာသို့“မြေငှားရမ်းသူ” ၏ကိုယ်စား တာဝန်ပေးအပ်ခြင်းခံရသူများအား ၎င်းတို့၏ လုပ်ငန်းတာဝန်များကို လုပ်ဆောင်ရန်အလို့ငှာ ဝင်ရောက်ခွင့်ပြုရန်၊

(ဃ) “အကျိုးတူဆောင်ရွက်သည့်မြေ” (သို့မဟုတ်) ၎င်း၏အစိတ်အပိုင်းပေါ်တွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများအားလုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများနှင့် အညီအညွတ်ဖြစ်ရန်၊

(င) “အကျိုးတူဆောင်ရွက်သည့်မြေ” (သို့မဟုတ်) ၎င်း၏အစိတ်အပိုင်းပေါ်တွင် ကျသင့်မည့် လျှပ်စစ်မီး၊ ရေနှင့် စည်ပင်သာယာခွန်များအားလုံးကို ပေးချေရန်၊

(စ) “မြေငှားချထားခြင်းခံရသူ” က မြန်မာ့အာမခံဥပဒေနှင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လိုအပ်သော အာမခံများထားရှိရန်။

၄။ “မြေငှားရမ်းသူ” သည် “မြေငှားချထားခြင်းခံရသူ” သို့ အောက်ပါအတိုင်းခံဝန်ကတိပြုသည်-

(က) “မြေငှားရမ်းသူ” သည် “အကျိုးတူဆောင်ရွက်သည့်မြေ” အား လက်ရောက် ပေးအပ်ငှားရမ်းရမည်၊

(ခ) “မြေငှားချထားခြင်းခံရသူ”သည် “အကျိုးတူဆောင်ရွက်သည့်မြေ”သို့ရည်မှန်းထားသည့် လုပ်ငန်းတာဝန်နှင့်သင့်မြတ်လျော်ကန်သော အသုံးအဆောင်များ ဆောက်လုပ်ရန်အတွက် ငြိမ်သက်စွာနှင့် အေးငြိမ်းစွာ ဝင်ရောက်နိုင်ခွင့်ပြုရမည်။ သို့ရာတွင် ၎င်းအသုံးအဆောင်များ၏ ဒီဇိုင်းများကို “မြေငှားရမ်းသူ” ၏ အတည်ပြုချက် ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုရမည်၊

(ဂ) "မြေငှားချထားခြင်းခံရသူ" သည် မြေငှားစာချုပ် သက်တမ်းကာလအတွင်း မည်သည့် အနှောက်အယှက်၊ အဟန့်အတားမှမရှိဘဲ၊ **"မြေငှားရမ်းသူ"**၏ ယုံမှတ်အပ်နှံခံရသူ အနေဖြင့်"အကျိုးတူဆောင်ရွက်သည့်မြေ"ကို ငြိမ်သက်စွာ လက်ဝယ်ရယူထားနိုင်ခွင့် ရှိစေရမည်၊

(ဃ) "မြေငှားရမ်းသူ" သည် "အကျိုးတူဆောင်ရွက်သည့်မြေ"အတွက် မြေခွန်ကိုပေးဆောင် ရမည်၊

၅။ "မြေငှားချထားခြင်းခံရသူ" သည် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးမှုကြောင့် ပေါ်ပေါက် လာသော တံဆိပ်ခေါင်းခွန်ကို ပေးချေရန်အတွက်လည်းကောင်း၊ မြေငှားစာချုပ်၏ ရည်ရွယ်ချက်ကို အကောင်အထည်ဖော်ခြင်း၊ အဆောက်အအုံများ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ခြင်း တို့ကြောင့် ပေါ်ပေါက်လာသော အခွန်အခများကို ပေးချေရန်အတွက်လည်းကောင်း တာဝန်ရှိသည်။

၆။ "မြေငှားချထားခြင်းခံရသူ"သည် "မြေငှားရမ်းသူ" ၏တရားဝင်စာဖြင့် ခွင့်ပြုချက်မရရှိဘဲ ဤမြေငှားစာချုပ်၏ ရည်ရွယ်ချက်တစ်စုံတစ်ရာကို ပြောင်းလဲခြင်း (သို့မဟုတ်) တည်ဆောက်ထား သော အဆောက်အအုံများကို ပြုပြင်ပြောင်းလဲခြင်းမပြုရန် သဘောတူပါသည်။

၇။ "မြေငှားချထားခြင်းခံရသူ" သည် ငှားရမ်းမြေပေါ်တွင်တူးဖော်ခြင်း(သို့မဟုတ်) ဖောက်ခွဲခြင်း လုပ်ငန်းပြုလုပ်စဉ် အရေးကြီးသောမည်သည့်တွေ့ရှိမှုကိုမဆို "မြေငှားရမ်းသူ" ထံချက်ချင်းအကြောင်း ကြားရမည်။ အရေးကြီးသောပစ္စည်းများ တွေ့ရှိမှုဆိုရာတွင် မြေတူးစဉ်နှင့် ဖောက်ခွဲမှုပြုလုပ်စဉ် တွေ့ရှိ ရသော အနုပညာ၊ ရှေးဟောင်းပစ္စည်းများ၊ သဘာဝသမိုင်း၊ ဒဂၤါးများနှင့် သိပ္ပံဆိုင်ရာအရေးပါသော အရာဝတ္ထုများ၊ ရှားပါးပြီးတန်ဖိုးရှိသောပစ္စည်းများနှင့် သဘာဝသယံဇာတအရင်းအမြစ်များပါဝင်ပြီး အဆိုပါပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများဖြစ်ပြီး ၎င်း၏သဘောအတိုင်း ဆောင်ရွက်နိုင်ခွင့်ရှိသည်။

"မြေငှားရမ်းသူ" သည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာအစိုးရအဖွဲ့အစည်းသို့ တင်ပြ၍ အတည်ပြုချက်ရယူပြီး မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။

၈။ "မြေငှားချထားခြင်းခံရသူ" သည် ဆောက်လုပ်ထားသော အဆောက်အအုံများနှင့် ၎င်းတို့၏ ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့် ညစ်ညမ်းမှုတို့မှကာကွယ်ရန်အတွက် လိုအပ်သော ကြိုတင်ပြင်ဆင်မှုများကို ၎င်း၏စရိတ်ဖြင့် ကျခံဆောင်ရွက်ရမည်။ ထို့အပြင် "မြေငှားချထားခြင်းခံရသူ"အနေဖြင့် "အကျိုးတူဆောင်ရွက်သည့်မြေ" (သို့မဟုတ်) ၎င်း၏အစိတ်

အပိုင်းပေါ်တွင် ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေး တောင်းဆိုမှုကိုမဆို **"မြေငှားရမ်းသူ"** အပေါ်တွင် တာဝန်မရှိစေရ။

**"မြေငှားချထားခြင်းခံရသူ"** သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအတွက် အောက်ပါတို့ကို တာဝန်ယူဆောင်ရွက်ရမည်-

(က) လုပ်ငန်းစီမံကိန်းနယ်မြေနှင့် ၎င်းနယ်မြေတစ်ဝိုက်တွင်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး၊

(ခ) လေထု၊ ရေထုနှင့် မြေထုများ၊ ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှုမရှိအောင် ထိန်းသိမ်းရေး၊

(ဂ) လုပ်ငန်းစီမံကိန်းနေရာအား သဘာဝပတ်ဝန်းကျင်နှင့် လိုက်လျောညီထွေဖြစ်အောင် ထိန်းသိမ်းနိုင်ရန်၊ ရေဆိုးနှင့် စွန့်ပယ်ပစ္စည်းများ ထိန်းသိမ်းသည့် စက်ကရိယာများ တပ်ဆင်မှုအပါအဝင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးအတွက် လိုအပ်သောအစီအမံများကို ချမှတ်ဆောင်ရွက်ရမည်။

၉။ **"မြေငှားချထားခြင်းခံရသူ"**သည် ဤမြေငှားစာချုပ်၏ **စည်းမျဉ်းစည်းကမ်းများကို** လိုက်နာရန် ပျက်ကွက်ပါက၊ ထိုသို့ပျက်ကွက်မှုအတွက် **"မြေငှားရမ်းသူ"**က ထုတ်ပြန်သော အကြောင်းကြားစာရပြီး ရက်ပေါင်း ၃၀ (သုံးဆယ်) အတွင်း ပျက်ကွက်မှုကို ပြန်လည်၍ မှန်အောင်ပြင်ဆင်ခြင်းမပြုလျှင်၊ **"မြေငှားရမ်းသူ"** သည် ဤမြေငှားစာချုပ်ပါ **"အကျိုးတူဆောင်ရွက်သည့်မြေ"** အပေါ် ပြန်လည်ဝင်ရောက်ခွင့်၊ မြေအားလုံးကို ပြန်လည်သိမ်းယူခွင့်ရှိသည်။ ထိုသို့သိမ်းယူချိန်မှစ၍ မြေငှားရမ်းမှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ ရပ်စဲ၊ **အဆုံးသတ်ပြီး** ဖြစ်ရမည်။ မြေသို့ပြန်လည်ဝင်ရောက်သည့် အခွင့်အရေးများသည် ဤမြေငှားစာချုပ်ပါ **"မြေငှားရမ်းသူ"**က **"မြေငှားချထားခြင်းခံရသူ"**ထံမှ ရရှိမည့်အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

၁၀။ (က) ဤမြေငှားစာချုပ် သက်တမ်းကာလအတွင်း မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် **"မြေငှားချထားခြင်းခံရသူ"** သည် **"မြေငှားရမ်းသူ"** သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့် မရှိစေရ။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင်၊ နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း

စသည်တို့ နှင့်စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များကို ဆိုလိုသည်၊

(ခ) ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက်အတွင်း"မြေငှားချထားခြင်းခံရသူ" သည်"မြေငှားရမ်းသူ"သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ "မြေငှားရမ်းသူ" ကလက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်ပြောက်ပြီး၊ မြေအသုံးချခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်၊

၁၁။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏အဆုံးအဖြတ်ကိုခံယူရမည်။

၁၂။ ဤမြေငှားစာချုပ်တွင် မူလကမမျှော်မှန်းထားသော အခြေအနေတစ်ရပ်ရပ် (သို့မဟုတ်) အနေအထားတစ်ရပ်ရပ်ဖြစ်ပေါ်လာပါ၍ ဤမြေငှားစာချုပ်ကို ပြင်ဆင်ရန် (သို့မဟုတ်) ပြောင်းလဲရန်ပေါ်ပေါက်လာသည့်အခါ နှစ်ဖက်စာချုပ်ဝင်တို့သည် သင့်လျော်သည့်ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့်ဖြည့်စွက်ခြင်းများဆောင်ရွက်နိုင်ရန် သဘောရိုးဖြင့် ညှိနှိုင်းဆွေးနွေးရမည်။

၁၃။ ဤမြေငှားစာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရုပ်စဲနိုင်သည်-

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) မြေငှားစာချုပ်ဝင်တစ်ဖက်ဖက်မှစာချုပ်ပါတာဝန်များဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်များသည် တစ်ဆက်တည်း(၆)လထက်ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း၊

(င) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် မြေငှားစာချုပ်ကို ရုပ်စဲခြင်း၊

၁၄။ ဤမြေငှားစာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် မြေငှားစာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြေငှားစာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက်စာဖြင့်

သဘောတူညီနိုင်းကြပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ သဘောတူညီချက် ရယူပြီးနောက် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထို့သို့ ပြင်ဆင်ချက်များကို ဤမြေငှားစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် ပါဝင်သည်ဟုမှတ်ယူရမည်။

၁၅။ မြေငှားစာချုပ်ဝင်တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများအရဖွဲ့စည်း၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၎င်းတွင် ဤမြေငှားစာချုပ်ကိုချုပ်ဆိုရန်အလို့ငှာ လုပ်ပိုင်ခွင့်၊ အာဏာ၊ ခိုင်မာသော ဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူဖြစ်ကြောင်း ကိုယ်စားပြုအာမခံချက်ပေးပါသည်။

၁၆။ ဤမြေငှားစာချုပ်ကိုဆောင်ရွက်ရန်နှင့် အကောင်အထည်ဖော်ရန်အလို့ငှာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံမှ လိုအပ်သော သဘောတူခွင့်ပြုချက်များ ရရှိမှုပေါ် မူတည်သည်။

၁၇။ ဤမြေငှားစာချုပ်ဝင်များသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီ ဤမြေငှားစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန်တာဝန်များကို အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၈။ ဤမြေငှားစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက်တွင် ဆက်လက်မြေငှားရမ်းမည်ဆိုပါက မြေငှားစာချုပ်သက်တမ်းမကုန်ဆုံးမီ ၆(ခြောက်)လအတွင်း ကြိုတင်ညှိနှိုင်း၍ မြေငှားစာချုပ်သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်းစည်းကမ်း၊ နှုန်းထားများနှင့်အညီ မြေငှားစာချုပ်သက်တမ်းတိုးရန်ဖြစ်သည်။ ထိုကဲ့သို့ မြေငှားစာချုပ် သက်တမ်းတိုးမြှင့်ခွင့်ကာလအတွက် မြေငှားရမ်းခနှုန်းထားများကိုလည်း ပြန်လည်သုံးသပ်၍ ပြင်ဆင်သတ်မှတ်နိုင်သည်။

၁၉။ ဤမြေငှားစာချုပ် သက်တမ်းတိုးမြှင့်ခြင်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြပြီး အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

၂၀။ ဤမြေငှားစာချုပ် သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင် **"မြေငှားချထားခြင်းခံရသူ"** က ဆောက်လုပ်ထားသည့် အဆောက်အဦများနှင့် မရွှေ့မပြောင်းနိုင်သောပစ္စည်းများကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ **"မြေငှားရမ်းသူ"** ပိုင်ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍ **"မြေငှားရမ်းသူ"**မှ ၎င်းအဆောက်အဦများ အားလုံးကို

သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း လက်ခံရန်ဆန္ဒမရှိလျှင် ထိုသို့လက်ခံနိုင်ခြင်းမရှိကြောင်း ညွှန်ကြားသည့်အဆောက်အဦများကို **"မြေငှားချထားခြင်းခံရသူ"** မှ ကုန်ကျစရိတ်ကျခံ၍ လုံးဝဖယ်ရှားပေးရမည်။

၂၁။ **"မြေငှားချထားခြင်းခံရသူ"** သည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် **"မြေငှားချထားခြင်းခံရသူ"** သို့ အကြောင်းကြားစာပေးပို့ပြီးနောက် သတ်မှတ်ကာလအတွင်း လိုက်နာမှုမရှိပါက **"မြေငှားရမ်းသူ"** သည် **"အကျိုးတူဆောင်ရွက်သည့်မြေ"**နှင့် အဆောက်အဦသို့ ပြန်လည်ဝင်ရောက်၍ လက်ရောက် ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် **"မြေငှားရမ်းသူ"** က **"မြေငှားချထားခြင်းခံရသူ"** ထံမှ ရရန်ရှိသော ငှားရမ်းခ(သို့မဟုတ်)ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခြင်းကို ထိခိုက်ခြင်းမရှိစေရ။

၂၂။ စာချုပ်ဝင်တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းတို့သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၎င်းတွင် ဤဖက်စပ်စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ၊ ခိုင်မာသောဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူဖြစ်ကြောင်း ကိုယ်စားပြုအာမခံချက်ပေးပါသည်။

၂၃။ ဤမြေငှားစာချုပ်ပါ **ပူးတွဲ(၁)** အပါအဝင် နောက်ဆက်တွဲများသည် ဤမြေငှားစာချုပ်၏ တစ်စိတ်တစ်ဒေသအဖြစ် မှတ်ယူရမည်။

သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ (     )ရက်နေ့၊ - - - - - - - - - လ၊၂၀၁၄ ခုနှစ်တွင် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

မြေငှားရမ်းသူ (ကိုယ်စား )

အမည် - ဦးကျော်မြင့်

ရာထူး - ဦးဆောင်ညွှန်ကြားရေးမှူး

ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

မြေငှားချထားခြင်းခံရသူ (ကိုယ်စား )

အမည် - ဦးတင်မောင်ဝင်း

ရာထူး - ဒါရိုက်တာ

ဌာန - Myanmar Sule Terminal Ltd

အသိသက်သေများ

အမည် - ဦးနီအောင်

ရာထူး - အထွေထွေမန်နေဂျာ

ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမည် - ဦးစိုးတင့်

ရာထူး - ဒါရိုက်တာ

ဌာန - Myanmar Sule Terminal Ltd

ပူးတွဲ(၁)




YANGON RIVER

MYANMA PORT AUTHORITY

SULE TERMINAL NO.1,2,3 & 4

TOTAL LAND AREA - 15.496 Acres

18/11/2014

PORT SURVEYOR

MYANMA PORT AUTHORITY




Layout Plan of Sule Terminal

ပထမအဆင့်တည်ဆောက်ရေးလုပ်ငန်း

ပူးတွဲ(၃)



Layout Plan of Sule Terminal

အဆင့်လိုက်တည်ဆောက်ရေးလုပ်ငန်းများ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၁ - ၅ /နပတ(၂၅၃ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ၊ မတ်လ ၁၈ရက်

အကြောင်းအရာ။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Co., Ltd တို့ချုပ်ဆိုမည့်ဖက်စပ်သဘောတူစာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့ အပေါ်သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ၁၁-၂-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ဆက/ မြို့ပြ (SKY)/ ၂၅၄ / ၂၀၁၄

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်ဆိပ်ကမ်း၊ ဆူးလေဆိပ်ခံတံတားအမှတ်(၁)၊(၂)၊ (၃) နှင့် (၄)တို့အားကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင်အပြည်ပြည်ဆိုင်ရာဆိပ်ကမ်းအဖြစ် အဆင့်မြှင့်တင်ပြုပြင်တည်ဆောက်ခြင်းလုပ်ငန်းအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Co., Ltd (SKY)တို့ချုပ်ဆိုမည့် ဖက်စပ်သဘောတူစာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း) တို့ အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စဖြစ်ပါသည်။

၂။ ပေးပို့လာသော မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Sein Kaung Yadanar Co., Ltd တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ် အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ် ၂ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များအပိုဒ်ခွဲ (ခ) ၌ နှစ်စဉ်အကျိုးအမြတ်ဝေစုခွဲဝေသည့်အခါ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

(MPA)ကရရှိမည့်အမြတ်ဝေစုသည် အမေရိကန်ဒေါ်လာ(၅)သန်းထက်လျော့နည်းပါက အဆိုပါလျော့နည်းသောပမာဏကို SKY မှ ဖြည့်စွက်ပေးသွင်းရမည်ဟုလည်းကောင်း၊ အပိုဒ်ခွဲ(ဂ)၌ ဒေါ်လာ(၅)သန်းအောက်လျော့ နည်းပါက SKY က (၅)သန်းအစား ညှိနှိုင်းပေးသွင်းခြင်းကို သဘောတူပါ သည်ဟု လည်းကောင်းဖော်ပြထားပါသည်။ သို့သော် စာချုပ်(မူကြမ်း) အပိုဒ် ၈ အကျိုးအမြတ်ခွဲဝေခြင်းအပိုဒ် ၈(က) ၌ဖက်စပ်ကုမ္ပဏီလီမိတက်မှရရှိသည့် အကျိုးအမြတ်ကို ၆၀:၄၀ အချိုးအတိုင်း ခွဲဝေခံစားမည်ဟု ဖော်ပြထားရာ စည်းကမ်းချက်ချင်းကိုက်ညီမှုမရှိဟုယူဆ၍ ဌာနက ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ ဖက်စပ်စာချုပ်ဟုဖော်ပြထားသော်လည်း အမြတ်ခွဲဝေမှုမှာ ဖက်စပ်စာချုပ်သဘောမသက်ရောက်ဘဲ ပုံသေရယူသည့် သဘောသက်ရောက်နေ၍ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၃(ခ)တွင် ဖော်ပြထားသော ဖက်စပ်ကုမ္ပဏီလီမိတက်၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများသည် စာချုပ်(မူကြမ်း)၌ ပူးတွဲပါရှိလာခြင်းမရှိ၍ စိစစ်နိုင်ခြင်းမရှိသဖြင့် ဌာနကတာဝန်ယူစိစစ်ရန်ဖြစ်ပါသည်။ အဆိုပါသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၉ နှင့် ၁၉ တို့အရ အင်္ဂလိပ်-မြန်မာနှစ်ဘာသာဖြင့် ပြုစု ရန်လိုပါသည်၊

(ဂ) စာချုပ်(မူကြမ်း)အပိုဒ် ၄ ၌ ဖက်စပ် ကုမ္ပဏီ လီမိတက်၏ ခွင့်ပြုမတည်ရင်းနှီးငွေမှာ အမေရိကန်ဒေါ်လာ (၁၅၀) သန်း (ကျပ်အားဖြင့်------ သန်း) ဖြစ်သည်ဟုလည်းကောင်း၊ အပိုဒ် ၅ ၌ ဖက်စပ် ကုမ္ပဏီ လီမိတက်၏ ကနဦးမတည် ရင်းနှီးငွေမှာ အမေရိကန်ဒေါ်လာ (၁၃၀) သန်း (ကျပ်အားဖြင့်

------ သန်း) ဖြစ်သည်ဟုလည်းကောင်း ဖော်ပြထားပါသည်။ အပိုဒ် ၅(ခ) ၌ MPA သည် ကနဦးရင်းနှီးမြှုပ်နှံငွေအဖြစ် အမေရိကန်ဒေါ်လာ (၆၀) သန်းကို ထည့်ဝင်မည်ဖြစ်ကြောင်း ဖော်ပြထားရာ မည်သည့်ငွေကြေးဖြင့် မတည်ရင်းနှီးမည်ဖြစ်ကြောင်း ရှင်းလင်းမှု မရှိ၍ ပြန်လည်စိစစ်ရန် ဖြစ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၄ ဖက်စပ်ကုမ္ပဏီလီမိတက်၏ ခွင့်ပြုမတည်ရင်းနှီးငွေ၊ အပိုဒ် ၅ ဖက်စပ် ကုမ္ပဏီ လီမိတက်၏ ကနဦးမတည် ရင်းနှီးငွေခေါင်းစဉ်များအောက်ရှိစာပိုဒ်များကို ကွက်လပ်များဖြင့်ဖော်ပြထားရာ စာချုပ်ချုပ်ဆိုချိန်၌ ယင်းတို့ကို ပြည့်စုံမှန်ကန်စွာ ဖော်ပြထားပြီးဖြစ်ရန် လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၉ "က"အစုရှယ်ယာရှင်"MPA"၏ လုပ်ငန်းတာဝန်တွင် အခြားဝန်ကြီးဌာနများနှင့် သက်ဆိုင်သောခွင့်ပြုချက်များ၊ ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်ခြင်း၊ မှတ်ပုံတင်ခြင်း၊ လုပ်ငန်းလိုင်စင်၊ အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်စသည်တို့ရရှိရေးအတွက် ဆောင်ရွက်ပေးရမည့်ကိစ္စရပ်များကိုဖော်ပြထားသဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၉ (က) တွင် MPA ၏ရှယ်ယာအား မြေပေါ်ရှိအဆောက်အအုံများ၏ တန်ဖိုးကို ထည့်ဝင်မည်ဖြစ်ကြောင်း ဖော်ပြထားရာ ယင်းကိစ္စရပ် နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ခွင့်ပြုခြင်း ရှိ မရှိ ဦးစွာတင်ပြသင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ ဖက်စပ်ကုမ္ပဏီလီမိတက်၏ လုပ်ငန်းစီမံခန့်ခွဲမှုတွင် နှစ်ပတ်လည်အစည်းအဝေး(Annual Meeting) နှင့် သင်းလုံးကျွတ်အစည်းအဝေး(General Meeting) တို့ကို မည်သည့်အချိန်တွင်ကျင်းပမည်ဖြစ်ကြောင်း၊ မည်သို့ကျင်းပမည်ဖြစ်ကြောင်း၊ ရက်ပေါင်းမည်မျှကြိုတင်အကြောင်းကြားမည်ဖြစ်ကြောင်း၊ နှစ်ပတ်လည်အစည်းအဝေးနှင့် သင်းလုံးကျွတ်အစည်းအဝေးကို အစုရှယ်ယာရှင် သို့မဟုတ် ဒါရိုက်တာဦးရေမည်မျှတက်ရောက်ပါက အစည်းအဝေးအထမြောက်ကြောင်း၊ အစည်းအဝေးများ၌ မဲပေးပိုင်ခွင့်၊ ဆုံးဖြတ်ခွင့်စသည့်အချက်များဖော်ပြထားခြင်းမရှိ၍ ဖော်ပြရန်လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ (ဂ) နှင့် ၁၃ (ခ)တို့တွင် ဖော်ပြထားသော Operation Management နှင့်စပ်လျဉ်း၍ အဆိုပါ Operation Management ကို မည်သူများနှင့် မည်သို့ဖွဲ့စည်းမည်ဆိုသော စည်းကမ်းချက်မပါရှိ၍ ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၂၁ တွင် စာချုပ်သက်တမ်းတိုးခြင်းနှင့်စပ်လျဉ်း၍ တစ်ကြိမ်လျှင်မည်မျှတိုးနိုင်ကြောင်းနှင့် အကြိမ်ရေ မည်မျှတိုးနိုင်ကြောင်း ဖော်ပြထားခြင်းမရှိ၍ ဖော်ပြရန်လိုအပ်ပါသည်၊

(ည) ဖက်စပ်စာချုပ်(မူကြမ်း) အပိုဒ် ၂၄ (ဃ) ၌ မြေငှားစာချုပ်အပါအဝင် နောက်ဆက်တွဲများအားလုံးကို ဤဖက်စပ်စာချုပ်တစ်စိတ်တစ်ဒေသအဖြစ်မှတ်ယူရမည်" ဟူ၍ ဖော်ပြထားပါသည်။ သို့ပါ၍ မြေငှားစာချုပ်(မူကြမ်း) ပါစည်းကမ်းချက်များသည်ဖက်စပ်စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များနှင့် ကိုက်ညီရန်လိုအပ်ပါသည်၊

(ဠ) စာချုပ်(မူကြမ်း) ၌ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်းစာပိုဒ်မပါရှိ၍ ဖော်ပြရန် လိုအပ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖော်ပြထားပြီး ဖြစ်ရန်လိုအပ်ပါသည်၊

(ဌ) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ ပေးပို့လာသော မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ဖက်စပ်ကုမ္ပဏီဖြစ်သော MPA-Sky SuleTerminal Limited တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ် အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) စာချုပ်ဝင်စာပိုဒ်များအောက်ရှိ အပိုဒ်(ခ)၌ ရည်ညွှန်းထားသော ပူးတွဲ(၁) အကျိုးတူဆောင်ရွက်သည့်မြေ၏ မြေပုံသည် သက်ဆိုင်ရာ မြေစာရင်းဦးစီးဌာနက တရားဝင်ရေးဆွဲထားသောမြေပုံဖြစ်ရန် လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များအပိုဒ်တို့၌ အကျိုးတူဆောင်ရွက်မည့် မြေ၏တည်နေရာ၊ လိပ်စာအပြည့်အစုံ၊ အကျယ်အဝန်းတို့အား သီးခြားစာပိုဒ် အနေဖြင့် ဖော်ပြန်ရန်လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၂ ၌ နှစ်စဉ်အကျိုးအမြတ်ဝေစုခွဲဝေခြင်းနှင့် စပ်လျဉ်း၍ဖော်ပြထားရာမြေငှားစာချုပ်ဖြစ်၍ အဆိုပါအကျိုးအမြတ်ဝေစုခွဲဝေခြင်းအားထည့်သွင်းဖော်ပြရန်မလိုအပ်ပါ။ မြေငှားရမ်းခနှုန်းထားများနှင့် စပ်လျဉ်း၍ ဖက်စပ်သဘောတူစာချုပ်ပါအပိုဒ်များကို ရည်ညွှန်းဖော်ပြမည့်အစား

အဆိုပါ စည်းကမ်းချက်ကို ယခုမြေငှားစာချုပ်(မူကြမ်း) ၌ ထည့်သွင်းဖော်ပြ သင့်ပါ သည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၈ ၌ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်ရေး နှင့်စပ်လျဉ်း၍ ဖော်ပြထားချက်မှာ မပြည့်စုံဟု ယူဆပါသည်။ ပိုမိုပြည့်စုံသော စည်းကမ်းချက်များကို ထည့်သွင်းဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၁၈ ၌ စာချုပ်သက်တမ်းတိုးခြင်းနှင့် စပ်လျဉ်း၍ တစ်ကြိမ်လျှင်မည်မျှတိုးနိုင်ကြောင်းနှင့် အကြိမ်ရေမည်မျှတိုးနိုင်ကြောင်းတို့ အားဖော်ပြမထား၍ ဖော်ပြရန်လိုအပ်ပါ သည်။ ထို့ပြင် "သက်တမ်းတိုးမြှင့်ရေး ဆိုင်ရာ စည်းမျဉ်းစည်းကမ်းနှုန်းထားများနှင့်အညီ မြေငှားသက်တမ်းတိုး ရန်" ဖော်ပြထားရာ ယခုစာချုပ်(မူကြမ်း)တွင် သက်တိုးမြှင့်ကာလအတွက် မြေငှားရမ်းခနှုန်းထားကို ပြန်လည်သုံးသပ်၍ ပြင်ဆင်မည်ဖြစ်ကြောင်း စည်းကမ်းချက် မပါရှိ၍ ထည့်သွင်းဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) ၌ မြေသို့ပြန်လည်ဝင်ရောက်ခွင့်နှင့် မြေငှားစာချုပ်ပါ ပူးတွဲ(၁) အပါအဝင် နောက်ဆက်တွဲများသည် ဤမြေငှားစာချုပ်၏ တစ်စိတ်တစ်ဒေသဖြင့် မှတ်ယူရမည် ဟူသောစည်းကမ်းချက်တို့ မပါရှိ၍ မင်နီဖြင့် ရေးသားပေးလိုက်ပါသည်၊

(ဆ) တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့် သော တံဆိပ်ခေါင်းခွန်ကို မြေငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ် ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) ၌ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်းစာပိုဒ်မပါရှိ၍ ထည့်သွင်း ဖော်ပြရန်လိုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖော်ပြ ထားပြီးဖြစ်ရန်ပါသည်၊

(ည) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ ဤ စာချုပ်(မူကြမ်း)(၂)ရပ်ကိုပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့် အညီ ဥပဒေကြောင်း အရသာဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကိုဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ် များနှင့် စပ်လျဉ်း၍သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြု ပါသည်။

၅။ Sein Kaung Yadanar Co., Ltd သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင် နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေး အင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူ ဟုတ် မဟုတ် စသည်တို့ ကို ကြိုတင်စိစစ် ရန်လိုအပ်မည်ဖြစ် ပါသည်။

၆။ စာချုပ် (မူကြမ်း) များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်စီပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၂၇/၂/၂၀၁၄

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေသီလင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်